ဆက်သွယ်ရန်
ဦးအောင်ဥက္ကာ.
Ph - 09449364313

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဌာနခွဲ

## လုပ်ငန်းညှိနှိုင်းရေးဌာနခွဲ

## ဝင်စာတင်ပြလွှာ

ကုမ္ပဏီအမည် Soe Lwin Aung Construction Co., Ltd.

စိုးလွင်အောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်

တင်ပြသည့်လုပ်ငန်း ရွှေညောင်-ရပ်စောက် လမ်းပိုင်းကို ပြုပြင်ဆောက်လုပ်၍

BOT စနစ်ဖြင့် လမ်းအသုံးပြုခကောက်ခံသည့်လုပ်ငန်း။

| ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|
| ၂၄.၁၂.၂၀၁၂ | စိုးလွင်အောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ B.O.T စနစ်ဖြင့်ဆောင်ရွက်လျက်ရှိသော ရွှေညောင်-ရပ်စောက် လမ်းပိုင်းအတွက် လုပ်ငန်းလုပ်ကိုင်ခွင့် အဆိုပြုလွှာတင်ပြခြင်း (ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့်တင်ပြလာခြင်း) | ၂၄ ရက်နေ့ (၂:၀၀)နာရီတွင် လက်ခံရရှိ |
| ၂၄.၁၂.၂၀၁၂ | (၄၃/၂၀၁၂) (၂၇-၁၂.၂၀၁၂)နေ့ IICPT အစည်းအဝေးသို့ တင်ရန် Memo စာကြမ်းဝင် | |
| ၂၆.၁၂.၂၀၁၂ | Memo (စာကြမ်း) ပြန်ကျ / (စာချော) ပြန်တင် / ပြန်ကျ / Memo (၂၀) စုံ | Co. သို့ စာအုပ်လာပေးရန် Ph. ဆက် (၁၅)စုံ (12:30)နာရီတွင်လာပေး |
| ၂၇.၁၂.၂၀၁၂ | Co. သို့ အစည်းအဝေး (၁:၀၀)နာရီတက်ရန် Ph: ဆက် / မစရိုးလွင်နေသဖြင့် မတက်နိုင်ကြောင်း► နောက်တစ်ပတ် အစည်းအဝေးတွင် ပြန်ထည့်ပေးရန် | Ag - မှတ် (ပြောကြား၍) အထူးဖိတ်ကြားလဲ Co. မှ မတက်နိုင်သဖြင့် မဆွေးနွေးဖြစ်ကြောင်း ဒေါ်နီဆေးမှ ပြန်ဆက်ပြောကြားပါသည် |
| ၂၈.၁၂.၂၀၁၂ | Law နှင့် PAPRD သို့ သဘောထားတောင်းခံစာ တင်ထား | |
| ၃၁.၁၂.၂၀၁၂ | Law မှ သဘောထားပြန်ကြားစာ (၂၉) ရက်နေ့ Date ဖြင့် ပြန်ကြားလာ / PAPRD သို့ သဘောထားတောင်းခံစာ Disspart မှ ပေးပို့ | |
| ၃၁.၁၂.၂၀၁၂ | Co. သို့ (၁/၂၀၁၃) IICP အစည်းအဝေး (၃.၁.၁၃) သို့ ပြန်လည်တင်ပြရန် စာအုပ် (၇)အုပ်တောင်းထား | (၃.၁.၁၃) နေ့တွင် အစည်းအဝေး (၁)နာရီ တက်ရန် Co. သို့ ပြောကြား |

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဌာနခွဲ

## လုပ်ငန်းညှိနှိုင်းရေးဌာနခွဲ

## ဝင်စာတင်ပြလွှာ

ကုမ္ပဏီအမည် ----------------------------------------

----------------------------------------

တင်ပြသည့်လုပ်ငန်း ----------------------------------------

----------------------------------------

| ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|
| ၇.၁.၂၀၁၃ | (၂.၁.၂၀၁၃) နေ့ Date ဖြင့် PAPRD မှ သဘောထား ပြန်ကြားစာ ရရှိ | |
| ၈.၁.၂၀၁၃ | IICPT ဆုံးဖြတ်ချက် စာချော တင်ထား | |
| ၉.၁.၂၀၁၃ | IICPT ဆုံးဖြတ်ချက်စာ ပြန်ကျ / သက်ဆိုင်ရာ ဌာနများသို့ Dissport မှ ပေးပို့ | Co., အတွက် လာယူရန် Ph: ဆက် (Co., သို့) |
| ၂၂.၂.၂၀၁၃ | (၉/၂၀၁၃) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြရန် Memo တင်ထား | (၂၆.၂.၁၃) တွင် ပြန်ကျ |
| ၂၆.၂.၂၀၁၃ | (၉/၂၀၁၃) တွင် Co., မှ MD ခရီးသွားနေပါသဖြင့် အစည်းအဝေး မတက်ရောက်နိုင်ပါ၍ နောက်တစ်ကြိမ်အစည်းအဝေးမှ တင်ပေးပါရန် ခွင့်ပန်ကြားလာပါသည်။ | ဆောင်ရွက်ရန် |
| ၄.၃.၂၀၁၃ | law သို့ ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာ (မူကြမ်း) ပြန်ကျ / (စာချော) ပြန် တင်ထား | 〃 〃 |
| ၁၄.၃.၂၀၁၃ | (၁၃.၃.၂၀၁၃) (၁၀/၂၀၁၃) ကြိမ်မြောက် MIC မှ ခွင့်ပြု မအသ - ၈၉၅/၂၀၁၃ (၁၃.၃.၂၀၁၃) အမိန့်ကြော်ငြာစာအမှတ် ၂၅/၂၀၁၃ (မအသ) | ခွင့်ပြုမိန့် လာထုတ်ရန် ဦးဝေသောင်းညွှန့်ထံ ဖုန်းဆက် |
| ၁၉.၃.၂၀၁၃ | ခွင့်ပြုမိန့် လာထုတ် / (၄၅) ရုံး ချုပ်ပြီး လာပို့ | ဌာနများသို့ ဖြန့်ဝေ |
| ၂၀.၃.၂၀၁၃ | ရင်းနှီး/ကြီးကြပ်သို့ Proposal (၃) အုပ် / MIC Memo (၁) စုံ / ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာ (၃) စုံ လွှဲပြောင်းပေး | ဆောင်ရွက်ပြီးစီး |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၆(က)/မ- ၁၂၉၄/၂၀၁၃( ၂၅၈၂ )
ရက်စွဲ၊ ၂၀၁၃ ခုနှစ် ဖေဖော်ဝါရီလ ၂၆ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Soe Lwin Aung Construction Co., Ltd မှ ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်) အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်း**

၁။ မြန်မာကုမ္ပဏီဖြစ်သော Soe Lwin Aung Construction Co., Ltd မှ ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်) အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစိုးလွင် (အဘ-ဦးကြည်ညွန့်) မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြုတင်ပြလာခြင်း ဖြစ်ပါသည်။

၂။ လုပ်ငန်း အဆိုပြုချက်ကို **(နောက်ဆက်တွဲ-က)**ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း ၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ (၃.၅၃)သန်း အပါအဝင် စုစုပေါင်း ကျပ်(၅၆၈၁.၀၉) သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ အမေရိကန်ဒေါ်လာ (၁.၇၈) သန်းဖိုး နှင့် လုပ်ငန်းသုံး ကတ္တရာ အမေရိကန်ဒေါ်လာ (၁.၇၅)သန်းဖိုး တို့အား ပြည်ပ မှ ဝယ်ယူမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ငွေသား | ကျပ် ၁၃၃၂.၅၀ သန်း |
| (ခ) | စက်ပစ္စည်းကိရိယာများ | ကျပ် ၁၅၀၃.၉၈ သန်း (US$ ၁.၇၈ သန်း) |
| (ဂ) | လမ်း | ကျပ် ၁၃၂၇.၇၅ သန်း |
| (ဃ) | ကတ္တရာ | ကျပ် ၁၄၈၀.၅၀ သန်း(US$ ၁.၇၅ သန်း) |
| (င) | တံတား | ကျပ် ၃၆.၃၆ သန်း |

**စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ် ၅၆၈၁.၀၉ သန်း (US$ ၃.၅၃ သန်း အပါအဝင်)**

၃။ အဆိုပြုလမ်းစီမံကိန်း အတွက် လမ်းအသုံးပြုခ ကောက်ခံဂိတ်ကို ဂိတ်စခန်း(၁)ခု တည်ဆောက်ပြီး ကောက်ခံမည် ဖြစ်ပါသည်။ အဆိုပြုလမ်းစီမံကိန်းတွင် (၁၈)ပေ အကျယ် နှစ်လမ်းသွား ကတ္တရာလမ်း နှင့် တံတားစုစုပေါင်း (၂၀)စင်း တို့ကို လိုအပ်သလို ပြုပြင်ဖောက်လုပ် တည်ဆောက်မည် ဖြစ်ပါသည်။

၄။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ)မှာ (၃)နှစ် ဖြစ်ပါသည်။(စာချုပ်အပိုဒ် ၉-ဂ(၁))

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ်(၄၀) ဖြစ်ပြီး နှစ်ဖက်သဘောတူပါက တစ်ကြိမ်လျှင် (၅)နှစ်စီ ဖြင့် (၃)ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်း သက်တမ်း ကာလကို ရေတွက်ရာတွင် ခွင့်ပြုသတ်မှတ်ထားသည့် လုပ်ငန်းကာလ(၃)နှစ် အထိ စီမံကိန်းလုပ်ငန်းပါ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အပြီး ဆောင်ရွက်ပြီးစီးသည့် နေ့ (သို့မဟုတ်) လုပ်ငန်း ကာလ (၃)နှစ်ထက်စော၍ ပြီးစီးပြီး လုပ်ငန်းအပြီးသတ်ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့၊ ထိုနှစ်ရပ်အနက် စောရာ နေ့ရက်ကာလမှ စတင်သတ်မှတ်မည် ဖြစ်ပါသည်။[စာချုပ်အပိုဒ် ၂၃(ခ/ဂ) ]

(ဂ) အဆိုပြုကုမ္ပဏီမှ အောက်ပါ လမ်း-တံတား အသုံးပြုခ နှုန်းထားများအတိုင်း ကောက်ခံမည် ဖြစ်ပါသည်-(စာချုပ်အပိုဒ် ၈-က)

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း |
|---|---|---|
| ၁။ | (၂)တန်နှင့် အောက်ယာဉ် ကိုယ်ပိုင်ယာဉ်ငယ်များ | ၅ကျပ် |
| ၂။ | (၂.၂၅)တန်မှ (၃.၂၅)တန်အထိ ယာဉ်များ | ၁၅ကျပ် |
| ၃။ | (၄)တန်ယာဉ် (ကုန်တင်ယာဉ်ငယ်) | ၂၀ ကျပ် |
| ၄။ | (၅.၅)တန်/ (၆)တန်/ (၇)တန်ယာဉ်များ(ကုန်တင်ယာဉ်ငယ်) | ၂၅ ကျပ် |
| ၅။ | (ယာဉ် + ခရီးသည်/၂၆ ဦး မှ ၄၅ ဦးထိ) ၁၂တန်/ ၁၆တန်(ဝင်ရိုး-၂ခုပါ) ခရီးသည်တင် မှန်လုံယာဉ် | ၅၀ ကျပ် |
| ၆။ | (ယာဉ် + ခရီးသည်/၅၅ ဦးအထိ) ၁၇ တန် (ဝင်ရိုး-၂ခုပါ) ခရီးသည်တင်မှန်လုံယာဉ်ကြီး | ၅၅ ကျပ် |
| ၇။ | (ယာဉ်+ကုန်)(၅+၅)၁၀တန်(ဝင်ရိုး၂ခုပါ) ကုန်တင်ယာဉ်လတ် (၆)ဘီးကား (ကိုယ်ထည်အလျား= ၁၅ပေ မှ ၂၀ပေအထိ) | ၆၀ ကျပ် |
| ၈။ | (ယာဉ်+ကုန်)(၆.၅+၆.၅)၁၃တန်(ဝင်ရိုး၂ခုပါ) ကုန်တင်ယာဉ်လတ်(၆)ဘီးကား | ၇၅ ကျပ် |

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း |
|---|---|---|
| ၉။ | (ယာဉ်+ကုန်)(၈+၈)၁၆တန်(ဝင်ရိုး၂ခုပါ) ကုန်တင်ယာဉ်ကြီး(၆)ဘီးကား | ၁၀၀ ကျပ် |
| ၁၀။ | (ယာဉ် + ခရီးသည်/၂၆ ဦး မှ ၄၅ ဦးထိ) ၁၂တန်/ ၁၆တန်(ဝင်းရိုး-၂ခုပါ) ခရီးသည်တင် မှန်လုံယာဉ် (ကုန်တင်လာပါက) | ၁၀၀ ကျပ် |
| ၁၁။ | (ယာဉ် + ခရီးသည်/ ၅၅ ဦး အထိ) ၁၇ တန် (ဝင်းရိုး-၂ခုပါ) ခရီးသည်တင် မှန်လုံယာဉ်ကြီး (ကုန်တင်လာပါက) | ၁၂၀ ကျပ် |
| ၁၂။ | (ယာဉ်+ကုန်)(၁၀.၅+၁၀.၅)၂၁တန်(ဝင်ရိုး၃ခုပါ) ကုန်တင်ယာဉ်ကြီး(၁၀)ဘီးကား | ၁၂၅ ကျပ် |
| ၁၃။ | (ယာဉ်+ကုန်)(၁၂.၅+၁၂.၅)၂၅တန်(ဝင်ရိုး၄ခုပါ) ကုန်တင်ယာဉ်ကြီး(၁၂)ဘီးကား | ၁၅၀ ကျပ် |
| ၁၄။ | (ယာဉ်+ကုန်)(၁၄+၂၀)၃၄တန်(ဝင်ရိုး၄ခုပါ) ကုန်တင်ယာဉ်ကြီး(၁၄)ဘီးကား(နောက်တွဲပါ) | ၂၀၀ကျပ် |
| ၁၅။ | (ယာဉ်+ကုန်)(၁၅+၃၁)၄၆တန်(ဝင်ရိုး၅ခုပါ) ကုန်တင်ယာဉ်ကြီး(၁၈)ဘီးကား(နောက်တွဲပါ) | ၃၀၀ ကျပ် |
| ၁၆။ | (ယာဉ်+ကုန်)(၁၇+၃၈)၅၅တန်(ဝင်ရိုး၆ခုပါ) ကုန်တင်ယာဉ်ကြီး(၂၂)ဘီးကား(နောက်တွဲပါ) | ၄၀၀ကျပ် |
| ၁၇။ | အမှတ် (၉) မှ (၁၆) အထိ ကုန်တင်ယာဉ်ကြီးများ ကုန်မပါ အလွတ်ဖြစ်ပါက | ၁၀၀ ကျပ် |

(ဃ) ခွင့်ပြုထားသော လမ်းအပိုင်းပေါ်ရှိ တံတားများ အသုံးပြုခကို ကောက်ခံရာတွင် ပေ(၁၈၀) နှင့် အထက် ရှည်သည့် တံတားများ အတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့် လည်းကောင်း၊ သက်ဆိုင်ရာ ကုမ္ပဏီ၏ ရန်ပုံငွေဖြင့် တည်ဆောက်သော တံတားများ အတွက် ဌာန နှင့် ကုမ္ပဏီ တို့၏ ညှိနှိုင်း သဘောတူညီသည့် နှုန်းထားဖြင့်သာ ကောက်ခံမည် ဖြစ်ပါသည်။ (စာချုပ်အပိုဒ်၈-ခ(၁))

(င) စတင်ကောက်ခံသည့် ပထမ(၃)နှစ် ကာလအတွက် လမ်းအသုံးပြုခမှ နိုင်ငံတော်သို့ ပေးသွင်းခြင်းကို ကင်းလွတ်ခွင့်ပြုသည်။ ကျန်ကာလ အတွက် အောက်ပါသတ်မှတ်ထားသည့် ရာခိုင်နှုန်းများအတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါသည်။ (စာချုပ်အပိုဒ် ၅-ပ)

| | | |
|---|---|---|
| (၁) | ပထမ (၃)နှစ်အတွက် | ကင်းလွတ်ခွင့်ကာလ |
| (၂) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် | ၅% ပေးသွင်းရန် |
| (၃) | (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် | ၁၀% ပေးသွင်းရန် |
| (၄) | (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ (၁၀)နှစ် | ၁၅% ပေးသွင်းရန် |
| (၅) | (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ (၇)နှစ် | ၂၀% ပေးသွင်းရန် |

(၆) ၄၀ နှစ်ကျော် ကာလ အတွက် အချိန်တိုးမြှင့် ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်းရန် ဖြစ်ပါသည်။

(စ) ကုမ္ပဏီမှ ဘဏ်အာမခံကြေးငွေ အဖြစ် စာချုပ် ချုပ်ဆိုပြီး (၃၀)ရက်အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ် ၏ (၁)ရာခိုင်နှုန်း နှင့် ညီမျှသောငွေကို ထားရှိပေးရမည်။ ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့်နေ့မှ လုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည်အထိ ဖြစ်ပါသည်။ ကုမ္ပဏီသည် လုပ်ငန်း စတင်ရန် အကြောင်းကြားစာရပြီး ရက် (၃၀) အတွင်း လုပ်ငန်း စတင်ရန် ပျက်ကွက်လျှင် သော်လည်းကောင်း၊ သတ်မှတ်ကာလ အတွင်း လုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံငွေကို ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းမှ သိမ်းယူရမည် ဖြစ်ပါသည်။ ဘဏ်အာမခံငွေကို လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးပြီး ရက်ပေါင်း (၃၀)အတွင်း ကုမ္ပဏီသို့ ပြန်လည် ထုတ်ပေးရမည်။ (စာချုပ်အပိုဒ် -၆)

(ဆ) ကုမ္ပဏီသည် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း ၏ စာဖြင့် ရေးသားထားသော ခွင့်ပြုချက် မရဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ လုပ်ငန်း တစ်စိတ် တစ်ဒေသကို ထပ်ဆင့် ငှါးရမ်းခြင်း မပြုရ။ (စာချုပ်အပိုဒ် ၅-ထ)

(ဇ) လုပ်ငန်း စတင်သည့်နေ့သည် လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ (ဌာန) မှ လုပ်ငန်း စတင်ရန် လုပ်ငန်း လုပ်ကိုင်ခွင့်ရသူ (ကုမ္ပဏီ) သို့ အကြောင်းကြားသည့်နေ့ ဖြစ်သည်။ (စာချုပ်အပိုဒ် ၉-ခ)

(ဈ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလ နှစ် (၄၀) (သို့မဟုတ်) လုပ်ငန်း ဆက်လက်လုပ်ကိုင်ရန် နောက်ထပ် တိုးမြှင့်သော ကာလများ ပြီးဆုံးပါက အဆိုပါလမ်း နှင့် တံတားများ၊ ဂိတ်များ နှင့် အဆောက်အဦများကို ဖောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထား အတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မရှိဘဲ လွှဲပြောင်း ပေးရမည် ဖြစ်ပါသည်။ (စာချုပ်အပိုဒ် -၂၀)

၅။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၇)နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေ မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

ကျပ်(သန်း)

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၃၈၅.၆၃ |
| (ခ) | အသုံးစရိတ် | ၃၆၂.၀၁ |
| (ဂ) | အသားတင်အမြတ် | ၂၃.၆၂ |

၆။ လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၇)နှစ်မြောက်တွင် နိုင်ငံတော် မှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် ၇.၈၇ သန်း |
| (ခ) | လမ်းဖြတ်သန်းခ | ကျပ် ၁၉.၂၈ သန်း |

၇။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၃၀)နှစ် (၉)လ ဖြစ်ပြီး အရင်းအနှီးပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR) မှာ ၁.၆၉ % ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းတွင် တည်ဆောက်ရေး ကာလ နှင့် လုပ်ငန်းဆောင်ရွက်သည့် ကာလတွင် ပြည်တွင်းမှ လုပ်သား(၁၄၄)ဦး ခန့်ထားမည် ဖြစ်ပါသည်။

၉။ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာ ဦးစိုးလွင် အမည်ဖြင့် မြန်မာ့စီးပွားရေးဘဏ်ရှိ (၃-၁၀-၂၀၁၁)နေ့ရက်စွဲဖြင့် ငွေလက်ကျန် ကျပ်(၇၀၁.၀၀) သန်း ကို တင်ပြထားကြောင်း စိစစ်တွေ့ရှိရပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့် ပြုရပါမည်။

၁၁။ သို့ဖြစ်ပါ၍ Soe Lwin Aung Construction Co., Ltd မှ ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်) အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် တင်ပြခြင်း အပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ရုံးလက်ခံ

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၃ ခုနှစ် မတ် လ ရက်

အကြောင်းအရာ။ **Soe Lwin Aung Construction Co., Ltd မှ ဆောင်ရွက်လျှက်ရှိသော ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်) အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ မြန်မာကုမ္ပဏီ ဖြစ်သော Soe Lwin Aung Construction Co., Ltd မှ ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်) အား BOT စနစ်ဖြင့် လမ်းပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစိုးလွင် (အဘ- ဦးကြည်ညွန့်)မှ တင်ပြသည့် အဆိုပြုချက်အား (၁၃-၃-၂၀၁၃)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၀/၂၀၁၃) ကြိမ်မြောက် အစည်းအဝေး သို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ နှင့် ယင်းဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၄) ၊ အပိုဒ် ၁၂ တို့နှင့် အညီ Soe Lwin Aung Construction Co., Ltd အား ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်) အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ထုတ်ပေးမည့် **ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ (စာချော)** တို့ အား ဥပဒေဌာနမှ စိစစ် အတည်ပြုချက်ရယူ၍ ပြင်ဆင်ပြီး ဖြစ်ပါသဖြင့် **ခွင့်ပြုမိန့် နှင့် အမိန့် ကြော်ငြာစာ (စာချော)**တို့တွင် ဥက္ကဋ္ဌမှ လက်မှတ်ရေးထိုးပေးနိုင်ပါရန် တင်ပြ လမ်းညွှန်မှု ခံယူအပ် ပါသည်။

၃။ ညွှန်ကြားရေးမှူးချုပ်သည် ပြည်ပခရီး သွားနေပါသဖြင့် ဒုတိယညွှန်ကြားရေးမှူးချုပ် မှ လက်မှတ်ရေးထိုးတင်ပြရခြင်း ဖြစ်ပါသည်။

(ချိုချိုဝင်း)
ဒုတိယညွှန်ကြားရေးမှူးချုပ်

၄။ အမှားပြင်ဆင်ပြီး ဖြစ်ပါသဖြင့် သက်ဆိုင်ရာ ရင်းနှီးမြှုပ်နှံသူ သို့ ထုတ်ပေးမည့် ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ (စာချော) တို့ အား လက်မှတ်ရေးထိုးပေးနိုင်ပါရန် ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

Soe Lwin Aung ns




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့် ပြု မိန့်




ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၇၉၅................ / ၂၀၁၃ ။ ၂၀၁၃ ခုနှစ်၊ မတ် လ ၁၉ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးစိုးလွင်

(ခ) အဘ အမည် ဦးကြည်ညွန့်

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၃/ ရစန(နိုင်) ၀၀၇၆၃၉

(ဃ) နေရပ်လိပ်စာ အမှတ် (၂၄၃)၊ ဗိုလ်ချုပ်လမ်း၊ ဈေးတန်းရပ်ကွက်၊ ရပ်စောက်မြို့၊ ရှမ်းပြည်နယ်တောင်ပိုင်း။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း Soe Lwin Aung Construction Co., Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား BOT စနစ်ဖြင့် လမ်းပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ရွှေညောင် – ရပ်စောက်လမ်းပိုင်း (၃၆/၀)မိုင်

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၅၆၈၁.၀၉ (သန်း) (အမေရိကန်ဒေါ်လာ ၃.၅၃ သန်း အပါအဝင် စုစုပေါင်းကျပ်ငါးထောင်ခြောက်ရာရှစ်ဆယ့်တစ်သန်းကိုးသောင်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၂၅/၂၀၁၃ (မနသ)
၂၀၁၃ ခုနှစ် မတ် လ ၁၃ ရက်

၁။ မြန်မာကုမ္ပဏီ ဖြစ်သော Soe Lwin Aung Construction Co., Ltd သည် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းပိုင် ရွှေညောင် - ရပ်စောက် လမ်း အပိုင်း (၃၆/၀ မိုင်) အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြချက်အား (၁၃-၃-၂၀၁၃)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၀/၂၀၁၃) အစည်းအဝေး သို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များ ကို ကျင့်သုံး လျှက် Soe Lwin Aung Construction Co., Ltd မှ ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်) အား BOT စနစ်ဖြင့် လမ်းပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ များ ကောက်ခံခြင်း လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၈၉၅/၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၂။ Soe Lwin Aung Construction Co., Ltd အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။ ယင်း ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့် အညီ အောက် ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤ ကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်

သည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဆ) အရ စက်ပစ္စည်း သို့မဟုတ် အခြားလုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျှော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျှော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(င) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ)နှင့်(ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Soe Lwin Aung Construction Co., Ltd သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်ကို အနိမ့်ဆုံး ရည်မှန်းချက်** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ Soe Lwin Aung Construction Co., Ltd သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ Soe Lwin Aung Construction Co., Ltd သည် ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်) အား BOT စနစ်ဖြင့် ဆောင်ရွက်ရာတွင် ပြည်သူ့ဆောက်လုပ်ရေး နှင့် ချုပ်ဆိုမည့် BOT ပဋိညာဉ်စာချုပ်ပါ သတ်မှတ်ချက် စည်းမျဉ်း စည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း နှင့် Soe Lwin Aung Construction Co., Ltd တို့ ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်) အား BOT စနစ်ဖြင့် ဖောက်လုပ်၍ လုပ်ငန်းလုပ်ကိုင်ရေး ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုး၍ **ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်** ပြီးသည့်အခါ ယင်း သဘောတူ စာချုပ် မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၈။ Soe Lwin Aung Construction Co., Ltd သည် ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်)အား BOT စနစ်ဖြင့် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း သက်တမ်းမှာ နှစ်(၄၀) ဖြစ်သည်။ သက်တမ်းကိုရေတွက်ရာတွင် လုပ်ငန်းများကို အပြီး ဆောင်ရွက်ပြီးစီးသည့်ရက်နေ့ (သို့မဟုတ်) လုပ်ငန်း ပြီးစီးကြောင်း လက်မှတ် ထုတ်ပေးသည့်ရက်နေ့ ထိုနှစ်ရပ်အနက် စောရာ ရက်နေ့ ကာလမှ စတင် သတ်မှတ်မည်။

၉။ ကောက်ခံရရှိသည့် လမ်းအသုံးပြုခမှ "လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ" သို့ အောက်ပါအတိုင်း ပေးသွင်းရမည် ဖြစ်ပါသည်။(စာချုပ်အပိုဒ် ၅-ပ)

| | | |
|---|---|---|
| (က) | ပထမ (၃)နှစ်အတွက် | ကင်းလွတ်ခွင့်ကာလ |
| (ခ) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် | ၅% ပေးသွင်းရန် |
| (ဂ) | (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် | ၁၀% ပေးသွင်းရန် |
| (ဃ) | (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ (၁၀)နှစ် | ၁၅% ပေးသွင်းရန် |
| (င) | (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ (၇)နှစ် | ၂၀% ပေးသွင်းရန် |

(စ) ၄၀ နှစ်ကျော် ကာလ အတွက် အချိန်တိုးမြှင့် ကောက်ခံခွင့် တင်ပြချိန်တွင် နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်း ပေးသွင်းရန် ဖြစ်ပါ သည်။

၁၀။ လုပ်ငန်း လုပ်ကိုင်ခွင့် ပြုသည့် ကာလ နှစ် (၄၀) သို့မဟုတ် နောက်ထပ် တိုးမြှင့် ကာလများ ပြီးဆုံးပါက အဆိုပါလမ်းနှင့် ဂိတ်များကို ဖောက်လုပ်ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေး သို့ စနစ်တကျ မှတ်တမ်း မှတ်ရာများဖြင့် လွှဲပြောင်းပေးရမည်။

၁၁။ Soe Lwin Aung Construction Co., Ltd မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယား စနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဥ် ဆောင်ရွက်ရမည်။

၁၂။ Soe Lwin Aung Construction Co., Ltd သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ Soe Lwin Aung Construction Co., Ltd သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။

၁၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၅။ Soe Lwin Aung Construction Co., Ltd သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဥ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၆။ Soe Lwin Aung Construction Co., Ltd သည် အဆိုပြုလမ်း အပိုင်း တရားဝင်ဖွင့်လှစ်သည့်နေ့ရက် နှင့် စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက် တို့ကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(စိုးသိန်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က) /မ- ၁၂၉၄/၂၀၁၃( ၃၄၁၀ )

ရက်စွဲ၊ ၂၀၁၃ ခုနှစ် မတ် လ ၁၉ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ဆက်သွယ်ရေး၊ သတင်းအချက်အလက် နှင့် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ တောင်ကြီးမြို့

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

အုပ်ချုပ်မှုဒါရိုက်တာ၊ Soe Lwin Aung Construction Co., Ltd

သို့/

ဦးသန့်စင်ကြိုင် ( ညွှန်ကြားရေးမှူး)　　Fax - 406333

(က) **ပထမရွှေနဂါးဆောက်လုပ်ရေးကုမ္ပဏီလီမိတက်**
ပါဟုတ်(မိုးကောင်း)-ကာမိုင်းအပိုင်းနှင့် လ၀-ကာမိုင်း-လုံးခင်း-ဖားကန့်လမ်းအပိုင်း

| တံတားအမည် | ဆောက်လုပ်ရေးမှ တည်ဆောက်သော တံတား | ကုမ္ပဏီမှ တည်ဆောက်သော တံတား |
|---|---|---|
| တံတားအမှတ် ၃/၁၇ | ၁၈၆' | - |
| တံတားအမှတ် ၂/၇ | ၂၆၂'-၆" | - |
| တံတားအမှတ် ၁/၁၃ | ၁၉၂'-၆" | - |
| တံတားအမှတ် ၁/၄၆ | ၄၁၀' | - |

**မှတ်ချက်။** ဖော်ပြပါ တံတား (၄) စင်းအား တံတားအသုံးပြု၍ ကောက်ခံခြင်းမရှိပါ။

( ခ ) **စိုးလွင်အောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်**
ရွှေညောင်-ရပ်စောက်လမ်းအပိုင်း

ပေ (၁၈၀)နှင့် အထက် တံတားမရှိပါ။

မှ

(သိန်းဇော်)
အင်ဂျင်နီယာချုပ်(လမ်း)

D'MIC Fax

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

ဖက်(စ)-၆၇-၄၀၆၁၆၁          တယ်လီဖုန်း-၀၆၇-၄၀၆၁၃၉၊ ၄၀၆၁၆၁

စာအမှတ်၊ ရက-၆(က)/မ- ၁၂၉၄/၂၀၁၃(၃၈၃-ဃ)
ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီ လ ၈ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**

အကြောင်းအရာ။ **Soe Lwin Aung Construction Co., Ltd မှ ဆောင်ရွက်လျှက်ရှိသော ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်) အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ဝန်ကြီးရုံး ၏ (၂၁-၁၂-၂၀၁၂)ရက်စွဲပါ စာအမှတ်၊ ၁/ခွဲ-၂/ ထွေ/၂၀၁၂(ကုမ္ပဏီ)(စီ ၁၁၆၄၂)တင်ပြစာ

၁။ Soe Lwin Aung Construction Co., Ltd မှ ဆောင်ရွက်လျှက်ရှိသော ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်)အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ ရည်ညွှန်းပါစာဖြင့် အဆိုပြုတင်ပြလာခြင်းကို ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေ မြှင့်တင်ရေးအဖွဲ့ ၏ (၁/၂၀၁၃) (၃-၁-၂၀၁၃) အစည်းအဝေး သို့ တင်ပြခဲ့ပါသည်။

၂။ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည် -

(က) ကနဦး ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများ နှင့် လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်း ရန် အတွက် လုံလောက်သည့် နိုင်ငံခြား ငွေအထောက်အထား တင်ပြရန်၊

(ခ) လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ ဖော်ပြပေးရန်၊

(ဂ) ကုမ္ပဏီမှ ဖောက်လုပ်မည့် လမ်းအပိုင်း အတွက် တည်ဆောက်မည့် တံတားစာရင်း ဖော်ပြပေးရန်၊

(ဃ) လုပ်ငန်း အဆိုပြုချက် နှင့်အတူ အခွန်အကောက် ကင်းလွတ်ခွင့် လျှောက်လွှာ တင်ပြပေးရန်၊

၃။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၂)ပါ အချက်များအား သိရှိနိုင်ပါရန် နှင့် ပြန်လည် တင်ပြပေးပါရန် အကြောင်းကြားအပ်ပါသည်။

အဖွဲ့ခေါင်းဆောင် (ကိုယ်စား)
(သန့်စင်ကြိုင်၊ ညွှန်ကြားရေးမှူး)

မိတ္တူ

ဦးဆောင်ညွှန်ကြားရေးမှူး
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

အင်ဂျင်နီယာချုပ်(လမ်း)
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

အုပ်ချုပ်မှုဒါရိုက်တာ
Soe Lwin Aung Construction Co., Ltd

ရုံးလက်ခံ/မျှောစာတွဲ

လျှို့ဝှက်

DG 21/2013

ကြေးနန်းလိပ်စာ - "စိစစ်တိုး"
တယ်လီဖုန်းအမှတ် -၄၀၆၀၆၅
-၄၀၆၀၆၆
-၄၀၆၀၆၇
-၄၀၆၀၆၈
-၄၀၆၀၆၉
-၄၀၆၀၇၀
-၄၀၆၀၇၁

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန
ရုံးအမှတ်၃၂ ၊ နေပြည်တော်

စာအမှတ်၊စစတ-ဦး/၇၂၁( ၁၆ /၂၀၁၃)
ရက်စွဲ၊ ၂၀၁၃ခုနှစ် ဇန်နဝါရီလ ၂ ရက်

**အမှာစာ**

M.E 3.1.13

အကြောင်းအရာ။ **Soe Lwin Aung Construction Co.,Ltd. မှ ဆောင်ရွက်လျက်ရှိသော ရွှေညောင်-ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်) အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ အဆိုပြုချက် တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ၂၆-၁၂-၂၀၁၂ရက်စွဲပါ စာအမှတ်၊ ရက -၆ (က) /မ-ထွေ/၂၀၁၂ (၁၂၇၅၀-တ)

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ Soe Lwin Aung Construction Co.,Ltd မှ ဆောင်ရွက်လျက်ရှိသော ရွှေညောင်-ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်) အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ အဆိုပြုချက် တင်ပြလာခြင်းကိစ္စအပေါ် စီးပွားရေး တွက်ချက်မှုဆိုင်ရာ ကိစ္စရပ်များအား စိစစ်ပြီး တွေ့ရှိချက်များ ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြား လာပါသည်။

၂။ တင်ပြလာသည့် ရင်းနှီးမြှုပ်နှံမှု အဆိုပြုလွှာပါ ငွေသားစီးဆင်းမှု စာရင်းများကို အခြေခံ၍ စိစစ် တွက်ချက်ရာ အောက်ပါအတိုင်း တွေ့ရှိရပါကြောင်း ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလွှာပါ (Cash Flow) မှ အချက်အလက်များဖြင့် တွက်ချက်ရာ ရင်းနှီးမြှုပ်နှံမှုအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၂% ဖြစ်သဖြင့် ကုမ္ပဏီမှ တင်ပြထားသည်နှင့် ကိုက်ညီမှုရှိသည်ကိုတွေ့ရှိရပါကြောင်း၊ စီးပွားရေး အရ တွက်ခြေကိုက်မှု နည်းပါးသော်လည်း ဒေသဖွံ့ဖြိုး တိုးတက်မှု အတွက် ဆောင်ရွက်ရသော လုပ်ငန်းဖြစ်သည်ကို တွေ့ရှိရပါကြောင်း၊

(ခ) တွက်ချက်၍ ရရှိသော အရင်းကြေကာလမှာ ၃၀ နှစ် နှင့် ၉ လ ဖြစ်သဖြင့် အဆိုပြုလွှာပါ အရင်းကြေကာလနှင့် ကိုက်ညီမှုရှိသည်ကို တွေ့ရှိရပါကြောင်း၊

(ဂ) Soe Lwin Aung Construction Co.,Ltd. သည် မြန်မာနိုင်ငံသားများ ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို

ကနဦး နှစ် (၄၀)၊ ၅နှစ်စီ (၃)ကြိမ် သက်တမ်းတိုးဖြင့် နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ (၃၇၃၁၂၅၀) အပါအဝင် စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုငွေကျပ် (၅၆၈၁.၀၉) သန်းဖြင့် အကောင်အထည် ဖော် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊

(ဃ) **လူမှုရေးအကျိုးသက်ရောက်မှုအနေဖြင့်** နိုင်ငံအတွင်း အလုပ်အကိုင် အခွင့်အလမ်းများ အနေဖြင့် မြန်မာနိုင်ငံသား ဝန်ထမ်း (၁၄၄) ဦးခန့် အလုပ်အကိုင် ရရှိနိုင်မည်ဖြစ်သည်ကို တွေ့ရှိရပါကြောင်းနှင့် ဝန်ထမ်းများအတွက် သက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေး အစီအစဉ်များ ဆောင်ရွက်ပေးရန် လိုအပ်ပါကြောင်း၊

(င) **ပတ်ဝန်းကျင်အပေါ်အကျိုးသက်ရောက်မှု**များအတွက် ပတ်ဝန်းကျင်လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် အစီအမံများဖြင့် ဆောင်ရွက်သွားမည်ဟု ဖော်ပြပါရှိပါကြောင်း နှင့် အဆိုပါ အစီအမံများအား အလေးထားလိုက်နာ ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(စ) အဆိုပါရင်းနှီးမြှုပ်နှံမှုကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ အဓိကရည်မှန်းချက်တစ်ရပ်ဖြစ်သောလမ်းပန်းဆက်သွယ်မှု လုံခြုံချောမွေ့စေနိုင်ခြင်း၊ ကုန်စည်စီးဆင်းမှု လျင်မြန်သွက်လက်စေနိုင်ခြင်း၊ နိုင်ငံတော် ၏ အခွန်ဘဏ္ဍာငွေများ တိုးတက် ရရှိလာနိုင်ခြင်း နှင့် ဒေသဖွံ့ဖြိုးရေးကို တစ်ဖက်တစ်လမ်းမှ အထောက်အကူ ပြုနိုင်စေခြင်းစသည့် အကျိုး ကျေးဇူးများ ရရှိလာနိုင်မည် ဖြစ်ပါကြောင်း။

(signed) ၂.၁.၂၀၁၃

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ခင်နွဲ့ရီ၊ဒုတိယညွှန်ကြားရေးမှူး)

**ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန**

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး၊ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

**ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့**

စာအမှတ်၊ ရက-၆(က)/မ- ထွေ /၂၀၁၂( ၁၂၇၃၇ )

ရက်စွဲ၊ ၂၀၁၂ ခုနှစ် ၊ ဒီဇင်ဘာ လ ၂၆ ရက်

**ရင်းနှီးမြှုပ်နှံမှု သတင်းအချက်အလက် စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့ သို့ တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **Soe Lwin Aung Construction Co., Ltd မှ ဆောင်ရွက်လျှက်ရှိသော ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်) အား BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Soe Lwin Aung Construction Co., Ltd မှ ဆောင်ရွက်လျှက်ရှိသော ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်)အား BOTစနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် တင်ပြခြင်းကို လက်ခံ ရရှိခဲ့ပါသည်။

၂။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ကော်မရှင်ရုံးအဖွဲ့မှ Check List ဖြင့် စိစစ်ခဲ့ပြီး Check List ပါ လိုအပ်ချက်များအား ပြည့်စုံစွာ ထပ်မံပေးပို့ပါရန် ကုမ္ပဏီသို့ ပြောကြားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Soe Lwin Aung Construction Co., Ltd မှ ဆောင်ရွက်လျှက်ရှိသော ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်)အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် အတွက် ကြိုတင် စိစစ်ပေးပါရန် တင်ပြခြင်း အပေါ် အဖွဲ့ဝင်များ နှင့် ဌာနများမှ ကြိုတင်စိစစ်ချက်အရ လိုအပ်ချက်များ၊ ပြင်ဆင် ဖြည့်စွက်ရန် ကိစ္စများ၊ လုပ်ထုံး လုပ်နည်းနှင့် မညီညွတ်သည့် ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

အဖွဲ့ခေါင်းဆောင် (ကိုယ်စား)
(သန့်စင်ကြိုင်၊ အတွင်းရေးမှူး)

မိတ္တူ - ရုံးလက်ခံ

Soe Lwin Aung Construction Co., Ltd မှ

**BOT စနစ်ဖြင့် ဆောင်ရွက်လျှက်ရှိသော ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်)အား ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် နှင့် စပ်လျဉ်းသည့် အဓိက အချက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Soe Lwin Aung Construction Co., Ltd |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးစိုးလွင် (မန်နေဂျင်းဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - BOT စနစ်ဖြင့် ဆောင်ရွက်လျှက်ရှိသော ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်)အား ပြုပြင် ဖောက်လုပ်ခြင်း လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - ရှမ်းပြည်နယ်၊ ရွှေညောင် - ရပ်စောက် လမ်းအပိုင်း (၃၆/၀ မိုင်) |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၅၆၈၁.၀၉ သန်း(US$ ၃.၇၃သန်း အပါအဝင်) |
| | - ငွေပမာဏ | ကျပ် ၁၃၃၂.၅၀ သန်း |
| | - စက်ပစ္စည်းကိရိယာများ | ကျပ် ၁၅၈၅.၀၀ သန်း(US$ သန်း ၁.၉၈ သန်း အပါအဝင်) |
| | - လမ်း | ကျပ် ၁၃၂၇.၂၃ သန်း |
| | - ကတ္တရာ | ကျပ် ၁၄၀၀.၀၀ သန်း (US$ ၁.၇၅ သန်း အပါအဝင်) |
| | - တံတား | ကျပ် ၃၆.၃၆ သန်း |
| ၆။ | ရင်းနှီးမြှုပ်နှံမှု သက်တမ်း | - (၄၀)နှစ် |
| ၇။ | လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ | - ဖော်ပြထားခြင်းမရှိပါ။ |
| ၈။ | ဝင်ငွေ (တည်ဆောက်ရေး ကာလပြီး လုပ်ငန်းသက်တမ်း (၇)နှစ် မြောက် ဝင်ငွေအား ကောက်နုတ် တင်ပြထားခြင်း ဖြစ်ပါသည်။) | - ကျပ် ၃၈၅.၆၃ သန်း |
| ၉။ | အသားတင်အမြတ် (၇ နှစ်မြောက်) | - ကျပ် (၂၃.၆၂) သန်း |
| ၁၀။ | ဝန်ထမ်းအင်အား | - (၁၄၄)ဦး |
| ၁၁။ | အရင်းကြေကာလ | - (၃၀)နှစ်နှင့်(၉)လ |

၁၂။ အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) - ၁.၆၉ %

၁၃။ နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (၇ နှစ်မြောက်) ဝင်ငွေခွန် - ကျပ် ၇.၈၇ သန်း

လမ်းတံတားဖြတ်သန်းခရငွေ - ကျပ် ၁၉.၂၈ သန်း

၁၄။ ငွေကြေးအထောက်အထား - ကျပ်ငွေ အထောက်အထား အဖြစ် ကုမ္ပဏီ ၏ မန်နေဂျင်းဒါရိုက်တာ ဖြစ်သူ ဦးစိုးလွင် အမည်ဖြင့် Myanma Economic Bank (ရပ်စောက်ဘဏ်ခွဲ)ရှိ (၃-၁၀-၂၀၁၁) ရက်စွဲဖြင့် ကျပ် (၇၀၁.၀၀) သန်း ရှိကြောင်း တင်ပြထားပါသည်။ နိုင်ငံခြားငွေ အထောက်အထား တင်ပြထားခြင်း မရှိပါ။

၁၅။ အခြားတင်ပြချက် - ဌာနနှင့် ကုမ္ပဏီတို့ ချုပ်ဆိုထားသည့် လုပ်ငန်း B.O.T စာချုပ် (မူကြမ်း)ကို တင်ပြထားပါသည်။

- စာချုပ်ပါ အဓိကအချက်များမှာ-

(က)လုပ်ငန်းကာလ

(ခ) လမ်းအသုံးပြုခမှ နိုင်ငံတော်သို့ ပေးသွင်းရမည့်နှုန်း

(ဂ) လမ်း- တံတား အသုံးပြုခကောက်ခံနှုန်းများ

(ဃ) ဘဏ်အာမခံကြေး

- ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် Soe Lwin Aung Construction Co., Ltd တို့အကြား ချုပ်ဆိုမည့် B.O.T စာချုပ်(မူကြမ်း) အပေါ် ပြည်ထောင်စု ရှေ့နေချုပ်ရုံး ၏ သဘောထားမှတ်ချက် တင်ပြထားပါသည်။

- ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ ဘဏ်အာမခံကို ဗဟိုဘဏ်က တရားဝင်ဘဏ်လုပ်ငန်းခွင့်ပြုချက် ရရှိထားပြီး တရားဝင်ဘဏ်လုပ်ငန်း လုပ်ကိုင်လျှက်ရှိသည့် နိုင်ငံတော်ဘဏ်သို့မဟုတ် ဘဏ်တစ်ခုခု၌ ထားရှိသင့်ကြောင်း အကြံပြုထားပါသည်။

၁၆။ ကော်မရှင်ရုံးအဖွဲ့ မှ စိစစ်တင်ပြချက် - ဝင်ငွေ၊ နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် နှင့် အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) တို့မှာ ဌာနမှ တင်ပြချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။

- ယာဉ်အမျိုးအစား အလိုက် ကောက်ခံမည့်ခန့်မှန်း ဈေးနှုန်းအား တွက်ချက်တင်ပြထားပါသည်။

- ကနဦး ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများ နှင့် ကုန်ကြမ်း ပစ္စည်းများ တင်သွင်းရန်အတွက် လုံလောက်သည့် နိုင်ငံခြား ငွေအထောက်အထား တင်ပြရန်၊
- လမ်းတည်ဆောက်ရာတွင် လိုအပ်မည့် ကုန်ကြမ်းစာရင်းအား ဖော်ပြပေးပါရန်၊
- လမ်းတံတား အသုံးပြုခ ကောက်ခံမည့် ဂိတ်တည်နေရာ ဖော်ပြပေးရန်၊
- ကုမ္ပဏီမှ ဖောက်လုပ်မည့် လမ်းအပိုင်း အတွက် တည် ဆောက်မည့် တံတားစာရင်း ဖော်ပြပေးရန်၊
- အဆိုပြုတင်ပြခြင်း နှင့် အခွန်အကောက် ကင်းလွတ်ခွင့် လျှောက်လွှာ တင်ပြပေးရန်၊

# မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းဆောင်ရွက်ရာတွင် စိစစ်ရမည့် အဓိက အချက်များ

ကဏ္ဍ - ဆောက်လုပ်ရေးလုပ်ငန်း

ဆောင်ရွက်မည့်လုပ်ငန်း - BOT စနစ်ဖြင့် လမ်းဖောက်လုပ်ခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | စိစစ်ချက် ပါ (✓) မပါ (x) |
|---|---|---|
| ၁။ | **မြေနေရာနှင့် စပ်လျဉ်းသည့် အချက်များ** | |
| | (က) လမ်းဖောက်လုပ်ခြင်းလုပ်ငန်း ဖြစ်သဖြင့် ရွှေ့နေချုပ် ရုံး သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော စာချုပ်(မူကြမ်း) နှင့်အတူ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့်တင်ပြရန် | ✓ |
| ၂။ | **စက်ပစ္စည်း/ လုပ်ငန်းသုံးပစ္စည်းများ** | |
| | (က) ပြည်တွင်းမှ ဝယ်ယူမည့် စာရင်း၊ | |
| | (ခ) ပြည်ပမှ ဝယ်ယူမည့် စာရင်း၊ | ✓ |
| ၃။ | **စီးပွားရေးဆိုင်ရာ တင်ပြချက်များ** | |
| | (က) နှစ်စဉ်ဝန်ဆောင်မှု ရည်မှန်းချက် | |
| | (ခ) ဝန်ဆောင်မှုအစီအစဉ် | |
| | (ဂ) အရှုံး/အမြတ်စာရင်း (ကိန်းဂဏန်း အချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်) | ✓ |
| | (ဃ) ငွေသားစီးဆင်းမှုစာရင်း (Cash Flow Statement) ၊ IRR ၊ Pay back တွက်ချက်မှုများ(ကိန်းဂဏန်းအချက်အလက်များ၏ ငယ်စာရင်း တင်ပြရန်) | ✓ |
| | (င) နိုင်ငံတော်က ရရှိမည့်အကျိုးအမြတ်အခြေအနေ(ဝင်ငွေခွန်/ကုန်သွယ်လုပ်ငန်းခွန်) | ✓ |
| | (စ) အလုပ်အကိုင် ရရှိမှု အခြေအနေ (ပြည်တွင်း/ပြည်ပ ဝန်ထမ်းအင်အားစာရင်း၊ လစာ တွက်ချက်မှု) | ✓ |
| ၄။ | **ငွေကြေးအထောက်အထား** | |
| | (က) ရင်းနှီးမြှုပ်နှံမည့် ပြည်တွင်းသုံးငွေအတွက် ဝယ်ယူပြီးတန်ဖိုးမှအပ ဘဏ် အထောက်အထား တင်ပြရန်၊ | ✓ |
| | (ခ) ရင်းနှီးမြှုပ်နှံမှုတွင် နိုင်ငံခြားငွေ ပါဝင်ပါက ၎င်းအတွက် MFTB/ MICB ၏ Bank Statement တင်ပြရန်၊ | x |

| စဉ် | အကြောင်းအရာ | စိစစ်ချက် ပါ (✓) မပါ (x) |
|---|---|---|
| ၅။ | **လမ်းနှင့် သက်ဆိုင်သည့် စာရွက်စာတမ်းများ** | |
| | (က)လမ်းဖောက်လုပ်မည့် တည်နေရာပြပုံ ၊ လမ်းအသုံးပြုခကောက်ခံ မည့် ဂိတ်တည်နေရာ နှင့် လမ်းအရှည်မိုင် | |
| | (ခ) ဆောက်လုပ်ရေးဝန်ကြီးဌာန၏ ကြိုတင်ခွင့်ပြုမိန့် | ✓ |
| | (ဂ) တံတားစာရင်း | – |
| ၆။ | **အထွေထွေ** | |
| | (က) အဆိုပြုတင်ပြခြင်းနှင့်အခွန်အကောက်ကင်းလွတ်ခွင့်လျှောက်လွှာ | X |
| | (ခ) ကတိဝန်ခံချက် | ✓ |
| | (ဂ) ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ်မိတ္တူ | ✓ |
| | (ဃ) လုပ်ငန်းဆောင်ရွက်မည့်တည်နေရာပြမြေပုံ | X |
| | (င) မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက် | |
| | (စ) လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက် | X |
| | (ဆ) အဆောက်အဦ ဆောက်လုပ်ပြီးဖြစ်ပါက အဆောက်အဦ ဓါတ်ပုံ မိတ္တူ | – |
| | (ဇ) အဆောက်အဦ မဆောက်လုပ်ရသေးပါက အဆောက်အဦ ပုံစံ | – |
| | (ဈ) ကုမ္ပဏီဖွဲ့စည်းပြီးပါက ကုမ္ပဏီမှတ်ပုံတင် လက်မှတ် / ပုံစံ (၆) (အစုရှယ်ယာ လွှဲပြောင်းမှု) / ပုံစံ (၂၆) (ဒါရိုက်တာစာရင်း) | ✓ |
| ၇။ | **လုပ်ငန်းနှင့် သက်ဆိုင်သည့် စာချုပ်များ** | |
| | (က) ဌာနပိုင်မြေကို BOT စနစ်ဖြင့် ငှားရမ်းဆောင်ရွက်ခြင်းဖြစ်ပါက ရှေ့နေချုပ်ရုံးမှ သဘောထားမှတ်ချက်နှင့် အညီပြုစုထားသည့် BOT စာချုပ် (မူကြမ်း) | ✓ |
| | (ခ) ဌာနနှင့် ဖက်စပ်လုပ်ငန်း ဆောင်ရွက်ပါက လုပ်ငန်းသဘောတူ စာချုပ် (မူကြမ်း) | ✓ |

| **လာရောက်တင်ပြသူ** | | **စိစစ်သူ** | |
|---|---|---|---|
| လက်မှတ် | (signature) | လက်မှတ် | (signature) |
| အမည် | [illegible] | အမည် | [illegible] |
| တာဝန် | [illegible] | ရာထူး | [illegible] |
| ကုမ္ပဏီ | [illegible] | ဌာနခွဲ | [illegible] |
| နေ့စွဲ | | နေ့စွဲ | ၂၆-၁၂-၂၀၁၂ |

09/4936313

Final - Up Date

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန်

ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

အဆိုပြုချက်

# စိုးလွင်အောင်ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်

PROPOSAL OF THE INVESTOR TO MAKE

MYANMAR CITIZENS INVESTMENT IN THE

REPUBLIC OF THE UNION OF MYANMAR

## SOE LWIN AUNG CONSTRUCTION CO., LTD.

# စိုးလွင်အောင် ကုမ္ပဏီလီမိတက်

အမှတ်(၂၄၃)၊ ဗိုလ်ချုပ်လမ်း၊ ဈေးတန်းရပ်ကွက်၊ ရပ်စောက်မြို့ ။

**Ph-081-204553 , 081-204554, 09-5052411, 09-5210437, 09-8624251**

**Fax-081-204026**




သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ်(၃၂)၊ နေပြည်တော်။

နေ့စွဲ။ ။၂၀၁၃ခုနှစ်၊ ဖေဖော်ဝါရီလ(၇) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်တို့ စိုးလွင်အောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်အနေဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းပိုင်၊ရွှေညောင်–ရပ်စောက်လမ်းပိုင်း (၃၆)မိုင်အား ပြုပြင်ဖောက်လုပ်၍ BOT စနစ်ဖြင့်လမ်းအသုံးပြုခကောက်ခံသည့်လုပ်ငန်းအား ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ဆောင်ရွက်ရန်အတွက် ရည်ရွယ်၍ခေတ်မီနည်းပညာ၊ စက်ကိရိယာများဖြင့် တည်ဆောက်လုပ်ကိုင်ခွင့်ရရှိရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

၂။ အဆိုပါလျှောက်ထားသည့်အဆိုပြုလွှာပေါ်တွင် ရင်းနှီးမြှုပ်နှံမှုသတင်းအချက်အလက်စုဆောင်းရှာဖွေမြှင့်တင်ရေးအဖွဲ့(IICPT) မှစိစစ်ပြီးလိုအပ်သောပြင်ဆင်မှုများ ပြုလုပ်ရန်လမ်းညွှန်ခဲ့ပါသည်။ သို့ပါ၍ အဆိုပါလမ်းညွှန်ချက်များအရ ပြန်လည်ပြင်ဆင်ပြီးဖြစ်ပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့လေးစားစွာဖြင့် တင်ပြအပ်ပါသည်။ လိုအပ်သည့်နိုင်ငံခြားငွေအထောက်အထားများလည်းဆက်လက်၍ပေးပို့တင်ပြမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

ဦးစိုးလွင်

အုပ်ချုပ်မှုဒါရိုက်တာ

စိုးလွင်အောင်ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၂(ကုမ္ပဏီ)(စီ ၁၁၆၄၂)
ရက် စွဲ၊ ၂၀၁၂ ခုနှစ် ဒီဇင်ဘာလ ၂၇ ရက်

M.159
7/2

သို့

DDG 7
8/2

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **စိုးလွင်အောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် မှ B.O.T စနစ်ဖြင့် ဆောင်ရွက်လျှက်ရှိသော ရွှေညောင်-ရပ်စောက်လမ်းပိုင်းအတွက် လုပ်ငန်းလုပ်ကိုင်ခွင့် အဆိုပြုလွှာ တင်ပြခြင်း**

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ လမ်းအပိုင်းများအား B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လျှက်ရှိသော ကုမ္ပဏီများအနက် စိုးလွင်အောင် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ ဆောင်ရွက်လျှက်ရှိသည့် ရွှေညောင် - ရပ်စောက် လမ်းပိုင်း (၃၆/၀)မိုင်၏ အဆိုပြုလွှာ နှင့် ပဋိညာဉ် စာချုပ်ပါ လိုအပ်ချက်များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ လမ်းညွှန်မှုနှင့်အညီ ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ စိစစ်အတည် ပြုချက်ရယူ၍ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ လမ်းဦးစီးနှင့် ဆက်သွယ်ညှိနှိုင်းပြုစုပြီး ပေးပို့လာပါသည်။

၂။ သို့ဖြစ်ပါ၍ လမ်းညွှန်ချက်နှင့်အညီ ပြုစုထားသော ရွှေညောင် - ရပ်စောက် လမ်းပိုင်း (၃၆/၀)မိုင်၏ အဆိုပြုလွှာအား ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ လမ်းဦးစီးမှ စိစစ်ခဲ့ပြီး ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေးသို့ဆက်လက်တင်ပြပေးနိုင်ပါရန် စိုးလွင်အောင် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ တင်ပြလာသည့် အဆိုပြုလွှာ(၁)စုံ၊ ငွေကြေးလည်ပတ်မှု အခြေပြဇယား (၁)စောင်တို့နှင့် အတူ ပူးတွဲပေးပို့ တင်ပြအပ်ပါသည်။

၂၇/၁၂/၂၀၁၂

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
စိုးတင့်၊ ဒုတိယဝန်ကြီး

၂၇/၁၂

မိတ္တူကို

- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။
- အင်ဂျင်နီယာချုပ်(လမ်း)၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။

(၃၀-၁-၂၀၀၉) ရက်နေ့ B.O.T အစည်းအဝေး ကျင်းပပြီးနောက် လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်လျက်ရှိသော ကုမ္ပဏီများမှ တင်ပြလာသည့် ငွေကြေးလည်ပတ်မှု အခြေပြဇယား

| စဉ် | လမ်းအမည် | ကုမ္ပဏီအမည် | I.R.R (%) | အရင်းကြေကာလ(နှစ်) | (၁)ရက်လျှင်သွားသည့်ယာဉ်စီးရေ | (၁)နှစ်ယာဉ်တိုးနှုန်း (%) | ရင်းနှီးမြှုပ်နှံမှု (ကျပ်သန်း) |
|---|---|---|---|---|---|---|---|
| ၁။ | ရွှေညောင်-ရပ်စောက်လမ်းပိုင်း | စိုးလွင်အောင်ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် | ၁.၆၉ | ၃၀/၉ | ၃၀၀ | - | ၅၆၈၁.၀၉၀ |

# စိုးလွင်အောင် ကုမ္ပဏီလီမိတက်

အမှတ်(၂၄၃)၊ ဗိုလ်ချုပ်လမ်း၊ ဈေးတန်းရပ်ကွက်၊ ရပ်စောက်မြို့ ။

**Ph-081-204553 , 081-204554, 09-5052411, 09-5210437, 09-8624251**

**Fax-081-204026**




သို့

ပြည်ထောင်စုဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန
နေပြည်တော်

ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ၊ (၈) ရက်။

အကြောင်းအရာ။ ။ <u>ရွှေညောင်-ရပ်စောက်လမ်းပိုင်း အဆိုပြုချက်။</u>

၁။ ကျွန်တော်များ **Soe Lwin Aung Construction Co., Ltd.** သည်ရွှေညောင် - ရပ်စောက်လမ်းပိုင်းကို ပြုပြင်ဖောက်လုပ်သည့် လုပ်ငန်းလုပ်ကိုင်နိုင်ရန်အတွက် အဆိုပြုတင်ပြအပ်ပါသည်။

၂။ အဆိုပြုလမ်းစီမံကိန်းတွင် ကတ္တရာလမ်းအကျယ် (၁၈-ပေ) နှင့် အောက်ဖော်ပြပါတံတား (၂၀)စင်းတို့ကို လိုအပ်သလို ပြုပြင်ဖောက်လုပ်၊ပြန်လည်တည်ဆောက်မည် ဖြစ်ပါသည်-

(က) ပေ ၅၀ နှင့်အထက် တံတား (၅) စင်း

(ခ) ပေ ၅၀ အောက် တံတား (၁၅) စင်း

၃။ အဆိုပြုလမ်းပြုပြင်ဖောက်လုပ်မှုစီမံကိန်း၏ ခန့်မှန်းရင်းနှီးမြှုပ်နှံမှုငွေပမာဏမှာ အမေရိကန်ဒေါ်လာ (၃,၅၂၇,၇၅၀)အပါအဝင် ကျပ်သန်းပေါင်း (၅,၆၈၁.၀၉) သန်းဖြစ်ပါသည်။

၄။ အဆိုပြုလမ်းစီမံကိန်းအတွက် လမ်းအသုံးပြုခ ကောက်ခံဂိတ်ကို ဂိတ်စခန်း (၁)ခု တည်ဆောက်ပြီး အောက်ဖော်ပြပါ လမ်းအသုံးပြုခနှုန်းထားများဖြင့် ကောက်ခံခွင့်ပြုပါရန် အဆိုပြုတင်ပြအပ်ပါသည်-

လမ်းအသုံးပြုခကောက်ခံနှုန်း

| <u>ယာဉ်အမျိုးအစား</u> | <u>အသုံးပြုခနှုန်း</u> |
|---|---|
| (၁) ၂ တန်နှင့် အောက်ယာဉ်ကိုယ်ပိုင်ယာဉ်ငယ်များ(ဆလွန်း၊ဗင်၊ဝက်ဂွန်၊ မီနီကား၊မီနီလိုက်ထရပ်)၊အငှားယာဉ်များ၊ထော်လာဂျီငယ်(ခရီးသည်တင်)။ | - ၁ မိုင်လျှင် ၅ ကျပ် |
| (၂) ၂.၂၅ တန်/၃.၂၅ တန်ယာဉ် {ဟိုင်းလပ်၊လိုက်ထရပ်(အသေး)၊ဒဘယ်ကပ်၊ ဆပ်၊လင့်ခရူဇာ၊မှန်လုံယာဉ်ငယ်-၇ မှ ၁၂ဦး၊ထော်လာဂျီငယ်(ကုန်တင်)} | - ၁ မိုင်လျှင် ၁၅ ကျပ် |
| (၃) ၄ တန်ယာဉ်(ကုန်တင်ယာဉ်ငယ်) (လိုက်ထရပ်(အလတ်)-ဒိုင်နာ၊ကင်နာ/ 2000 kg ၊ ထော်လာဂျီအလတ်)။ | - ၁ မိုင်လျှင် ၂၀ ကျပ် |
| (၄) ၅.၅တန်/၆တန်/၇တန်ယာဉ်(ကုန်တင်ယာဉ်ငယ်){(လိုက်ထရပ် (အကြီး) -ဒိုင်နာ၊ကင်နာ/ 2750 kg ၊(ကိုယ်ထည်အလျား=၁၅ပေအောက်)}မီနီဘတ်စ် (၂၄)ဦး/ဟီးနိုးဘီအမ်(၂၅)ဦး၊ထော်လာဂျီအကြီး။ | - ၁ မိုင်လျှင် ၂၅ ကျပ် |
| (၅)(ယာဉ်+ခရီးသည် ၂၆ဦး မှ ၄၅ဦးထိ) ၁၂တန်/၁၆တန်(ဝင်ရိုး-၂ခုပါ)ခရီးသည်တင်မှန်လုံယာဉ်။(ခရီးသည်သာ-ကုန်မတင်ရ)။ | - ၁ မိုင်လျှင် ၅၀ ကျပ် |

# စိုးလွင်အောင် ကုမ္ပဏီလီမိတက်

အမှတ်(၂၄၃)၊ ဗိုလ်ချုပ်လမ်း၊ ဈေးတန်းရပ်ကွက်၊ ရပ်စောက်မြို့ ။

**Ph-081-204553 , 081-204554, 09-5052411, 09-5210437, 09-8624251**

**Fax-081-204026**




(၆) (ယာဉ်+ခရီးသည်/၅၅ဦးအထိ)၁၇တန်(ဝင်ရိုး-၂ခုပါ)ခရီးသည်တင်မှန်လုံ ယာဉ်ကြီး။(ခရီးသည်သာ-ကုန်မတင်ရ)။ – ၁ မိုင်လျှင် ၅၅ ကျပ်

(၇) (ယာဉ်+ကုန်)(၅+၅)၁၀တန်(ဝင်ရိုး-၂ခုပါ) (ကုန်တင်ယာဉ်လတ်ငယ်(၆)ဘီး ကား-အီဇူဇူ၊ကာကို၊နီဆန်းကွန်ဒို)(ကိုယ်ထည်အလျား=၁၅ပေ မှ ၂၀ပေအထိ) – ၁ မိုင်လျှင် ၆၀ ကျပ်

(၈) (ယာဉ်+ကုန်)(၆.၅+၆.၅)၁၃တန်(ဝင်ရိုး-၂ခုပါ) ကုန်တင်ယာဉ်လတ် (၆) ဘီးကား။ – ၁ မိုင်လျှင် ၇၅ ကျပ်

(၉) (ယာဉ်+ကုန်)(၈+၈)၁၆တန်(ဝင်ရိုး-၂ခုပါ)ကုန်တင်ယာဉ်ကြီး(၆)ဘီးကား။ – ၁ မိုင်လျှင်၁၀၀ ကျပ်

(၁၀)(ယာဉ်+ခရီးသည် ၂၆ဦး မှ ၄၅ဦးထိ)၁၂တန်/၁၆တန်(ဝင်ရိုး-၂ခုပါ)ခရီးသည်တင်မှန်လုံယာဉ်(ကုန်တင်လာပါက)။ – ၁ မိုင်လျှင် ၁၀၀ ကျပ်

(၁၁)(ယာဉ်+ခရီးသည်/၅၅ဦးအထိ) ၁၇တန်(ဝင်ရိုး-၂ခုပါ)ခရီးသည်တင်မှန်လုံ ယာဉ်ကြီး(ကုန်တင်လာပါက)။ – ၁ မိုင်လျှင် ၁၂၀ကျပ်

(၁၂)(ယာဉ်+ကုန်)(၁၀.၅+၁၀.၅) ၂၁တန်(ဝင်ရိုး-၃ခုပါ) ကုန်တင်ယာဉ်ကြီး (၁၀)ဘီးကား။ – ၁ မိုင်လျှင် ၁၂၅ ကျပ်

(၁၃)(ယာဉ်+ကုန်)(၁၂.၅+၁၂.၅)၂၅တန်(ဝင်ရိုး-၄ခုပါ)ကုန်တင်ယာဉ်ကြီး (၁၂) ဘီးကား။ – ၁ မိုင်လျှင် ၁၅၀ ကျပ်

(၁၄)(ယာဉ်+ကုန်)(၁၄+၂၀)၃၄တန်(ဝင်ရိုး-၄ခုပါ)ကုန်တင်ယာဉ်ကြီး(၁၄)ဘီးကား (နောက်တွဲပါ)။ – ၁ မိုင်လျှင် ၂၀၀ ကျပ်

(၁၅)(ယာဉ်+ကုန်)(၁၅+၃၁)၄၆တန်(ဝင်ရိုး-၅ခုပါ)ကုန်တင်ယာဉ်ကြီး(၁၈)ဘီးကား (နောက်တွဲပါ)။ – ၁ မိုင်လျှင် ၃၀၀ ကျပ်

(၁၆)(ယာဉ်+ကုန်)(၁၇+၃၈)၅၅တန်(ဝင်ရိုး-၆ခုပါ)ကုန်တင်ယာဉ်ကြီး(၂၂)ဘီးကား (နောက်တွဲပါ)။ – ၁ မိုင်လျှင် ၄၀၀ ကျပ်

(၁၇)အမှတ်စဉ် (၉) မှ (၁၆)အထိကုန်တင်ယာဉ်ကြီးများ ကုန်မပါအလွတ် ဖြစ်ပါက။ – ၁ မိုင်လျှင် ၁၀၀ ကျပ်

၅။ အဆိုပြုလမ်းစီမံကိန်းတွင်တင်ပြပါ လမ်းအသုံးပြုခနှုန်းထားဖြင့် စတင်ကောက်ခံရရှိငွေမှ အောက်ဖော်ပြပါ နှုန်းထားနှင့် နှစ်အပိုင်းအခြားများအလိုက် နိုင်ငံတော်သို့ ပြန်လည်ပေးသွင်းမည်ဖြစ်ပါသည်-

| | | | | | | |
|---|---|---|---|---|---|---|
| (၁) | ပထမနှစ်မြောက် | မှ | (၃) နှစ်မြောက်အထိ | (၃) နှစ်ကို | – | ကင်းလွတ်ခွင့်ပြုပါရန် |
| (၂) | (၄) နှစ်မြောက် | မှ | (၁၃) နှစ်မြောက်အထိ | (၁၀) နှစ်ကို | – | ၅% |
| (၃) | (၁၄) နှစ်မြောက် | မှ | (၂၃) နှစ်မြောက်အထိ | (၁၀) နှစ်ကို | – | ၁၀% |
| (၄) | (၂၄) နှစ်မြောက် | မှ | (၃၃) နှစ်မြောက်အထိ | (၁၀) နှစ်ကို | – | ၁၅% |
| (၅) | (၃၄) နှစ်မြောက် | မှ | (၄၀) နှစ်မြောက်အထိ | (၇) နှစ်ကို | – | ၂၀% |

# စိုးလွင်အောင် ကုမ္ပဏီလီမိတက်

အမှတ်(၂၄၃)၊ ဗိုလ်ချုပ်လမ်း၊ ဈေးတန်းရပ်ကွက်၊ ရပ်စောက်မြို့ ။
Ph-081-204553 , 081-204554, 09-5052411, 09-5210437, 09-8624251
Fax-081-204026




No ................
Date ................

၆။ အဆိုပြုလမ်းစီမံကိန်းတွင် (၁၈–ပေ) အကျယ် နှစ်လမ်းသွားကတ္တရာလမ်းစီမံကိန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏ၊ တင်ပြပါလမ်းအသုံးပြုခနှုန်းထား၊ လုပ်ငန်းသက်တမ်းကာလနှင့် နိုင်ငံတော်သို့လမ်းအသုံးပြုခအပေါ် ပေးသွင်းရမှုနှုန်းထားတို့အရ အရင်းကြေကာလမှာ (၃၀ နှစ် ၊ ၉ လ) ၊ Internal Rate of Return (IRR) မှာ ၁.၆၉ % ဖြစ်ပါသည်။ သို့ပါ၍ လမ်းအသုံးပြုခကောက်ခံသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းကာလကို (၄၀)နှစ်အထိ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုပါရန်နှင့် သက်တမ်းကာလ ကုန်ဆုံးပါက တစ်ကြိမ်လျှင်(၅)နှစ်စီဖြင့် (၃)ကြိမ် သက်တမ်းတိုးမြှင့် ခွင့်ပြုပါရန် အဆိုပြုတင်ပြအပ်ပါသည်။

၇။ ကျွန်တော်များကုမ္ပဏီ၏ ရွှေညောင်–ရပ်စောက်လမ်း စီမံကိန်းအဆိုပြုတင်ပြချက်နှင့်ပတ်သက်၍ ဝန်ကြီးဌာနမှ သဘောတူခွင့်ပြုပါက ဌာနနှင့် ကုမ္ပဏီတို့အကြား ချုပ်ဆိုမည့် ပဋိညာဉ် စာချုပ်(မူကြမ်း)ကို ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်ရယူပြီး ၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့်ရရှိနိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်ကို ဆက်လက်တင်ပြပေးနိုင်ပါရန် လေးစားစွာအဆိုပြုတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးစိုးလွင်
အုပ်ချုပ်မှုဒါရိုက်တာ
စိုးလွင်အောင်ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်

မိတ္တူကို –

ဦးဆောင်ညွှန်ကြားရေးမှူး
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း(ရုံးချုပ်)။

# စိုးလွင်အောင် ကုမ္ပဏီလီမိတက်

အမှတ်(၂၄၃)၊ ဗိုလ်ချုပ်လမ်း၊ ဈေးတန်းရပ်ကွက်၊ ရပ်စောက်မြို့ ။
Ph-081-204553 , 081-204554, 09-5052411, 09-5210437, 09-8624251
Fax-081-204026




ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊အောက်တိုဘာလ၊( ၈ ) ရက်။

အကြောင်းအရာ။ ။ ရွှေညောင် – ရပ်စောက်လမ်းပိုင်း အဆိုပြုချက်။

၁။ ကျွန်တော်များ Soe Lwin Aung Construction Co., Ltd. သည် ရွှေညောင်–ရပ်စောက်လမ်းပိုင်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းလုပ်ကိုင်ရန်အတွက် အဆိုပြုတင်ပြအပ် ပါသည်။

၂။ အဆိုပြုလမ်းစီမံကိန်းတွင် (၁၈) ပေအကျယ် နှစ်လမ်းသွား ကတ္တရာလမ်းနှင့် တံတားစုစုပေါင်း (၂၀)စင်းတို့ကို လိုအပ်သလို ပြုပြင်ဖောက်လုပ်တည်ဆောက်ခြင်း၊ လုပ်ငန်းစီမံကိန်း၏ ခန့်မှန်းရင်းနှီးမြှုပ်နှံမှု ငွေပမာဏမှာ အမေရိကန်ဒေါ်လာ (၃၅၂၇၇၅၀) အပါအဝင် ကျပ်သန်းပေါင်း (၅၆၈၁.၀၉) ဖြစ်ပါသည်။

၃။ အဆိုပြုလမ်းစီမံကိန်းတွင် လမ်းအသုံးပြုခန့်မှန်းထား၊လုပ်ငန်းကာလနှင့် နိုင်ငံတော်သို့လမ်းအသုံးပြုခကောက်ခံရငွေအပေါ် ပေးသွင်းမှုနှုန်းထားတို့အရ အရင်းကြေကာလမှာ (၃၀ နှစ်၊ ၉ လ)၊ Internal Rate of Return (IRR) မှာ ၁.၆၉% ဖြစ်ပါသဖြင့်၊ လုပ်ငန်းသက်တမ်းကာလကို နှစ်ပေါင်း (၄၀) နှစ်အထိ လုပ်ကိုင်ခွင့်ပြုပေးနိုင်ပါရန်နှင့် သက်တမ်းကာလကုန်ဆုံးပါက တစ်ကြိမ်လျှင်(၅)နှစ်စီဖြင့်(၃)ကြိမ်သက်တမ်းတိုးမြှင့်ခွင့်ပြုပါရန် အဆိုပြုအပ်ပါသည်။

၄။ သို့ပါ၍ကျွန်တော်များကုမ္ပဏီ၏ရွှေညောင် – ရပ်စောက်လမ်းစီမံကိန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်ဖြင့် ဆောင်ရွက်ခွင့်ပြုပါရန်နှင့် ဥပဒေ အခန်း–၇၊အပိုဒ် (၁၂)နှင့် (၁၃)ပါ ပြဌာန်းချက်များနှင့်အညီ အခွန်ကင်းလွတ်ခွင့် အခွန်ဆိုင်ရာသက်သာခွင့်များ ခွင့်ပြုပေးနိုင်ပါရန် အောက်ပါ အထောက်အထားစာရင်းဇယားစာရွက်စာတမ်းများကိုပူးတွဲလျက် လေးစားစွာဖြင့်အဆိုပြုတင်ပြအပ်ပါသည်။

(၁) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်
(၂) ဘဏ္ဍာရေးဆိုင်ရာ တွက်ချက်မှုစာရင်းဇယားများ
(၃) ပဋိညာဉ်စာချုပ်(မူကြမ်း)
(၄) ကုမ္ပဏီ၏ သင်းဖွဲ့စည်းမျဉ်းနှင့် သင်းဖွဲ့မှတ်တမ်း

လေးစားစွာဖြင့်

ဦးစိုးလွင်
အုပ်ချုပ်မှုဒါရိုက်တာ
စိုးလွင်အောင်ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်

# စိုးလွင်အောင် ကုမ္ပဏီလီမိတက်

အမှတ်(၂၄၃)၊ ဗိုလ်ချုပ်လမ်း၊ ဈေးတန်းရပ်ကွက်၊ ရပ်စောက်မြို့ ။
Ph-081-204553 , 081-204554, 09-5052411, 09-5210437, 09-8624251
Fax-081-204026




သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

နေ့စွဲ။ ။၂၀၁၂ခုနှစ်၊အောက်တိုဘာလ၊(၈) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုမိန့်နှင့်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကျွန်တော်တို့ စိုးလွင်အောင်ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်အနေဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းပိုင်၊ရွှေညောင်-ရပ်စောက်လမ်းပိုင်း (၃၆)မိုင်အား ပြုပြင်ဖောက်လုပ်၍ BOT စနစ်ဖြင့်လမ်းအသုံးပြုခကောက်ခံသည့် လုပ်ငန်းအား ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ဆောင်ရွက်ရန်အတွက် ရည်ရွယ်၍ခေတ်မီ နည်းပညာ၊ စက်ကိရိယာများဖြင့် တည်ဆောက်လုပ်ကိုင်ခွင့်ရရှိရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ခွင့်ပြုမိန့် လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

၂။ စိုးလွင်အောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်အနေဖြင့် ယခုအဆိုပြုလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ (၃,၅၂၇,၇၅၀) အပါအဝင် ကျပ် (၅၆၈၁.၀၉)သန်းကို ထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။လမ်းတည်ဆောက်ပြုပြင်၍ နှစ်ပေါင်း (၄၀)ထိ ကောက်ခံ ရရှိသော အမြတ်ငွေများကိုလည်း မြန်မာနိုင်ငံတော်အတွင်း အခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများ တွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။

၃။ စိုးလွင်အောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်အနေဖြင့် ယခုအဆိုပြုသည့် ရွှေညောင်-ရပ်စောက်လမ်းပိုင်း (၃၆)မိုင်ရှည်လျားသည့် လမ်းမကြီးမှာ မြန်မာနိုင်ငံတော်အတွင်း လမ်းပန်း ဆက်သွယ်မှုလုံခြုံချောမွေ့စေရေးနှင့် ကုန်စည်စီးဆင်းမှုများ မှန်ကန်မြန်ဆန်စေရေးကို လည်းကောင်း၊ ဒေသတွင်း လမ်းပန်းဆက်သွယ်ရေးကောင်းမွန်လာသည်နှင့်အမျှ စီးပွားရေး၊ လူမှုရေး၊ လူနေမှုအဆင့် အတန်းများ မြင့်မားလာစေရေးအတွက်လည်းကောင်း၊ စီမံကိန်းကြောင့် နိုင်ငံသားများ အလုပ်အကိုင် အခွင့်အလမ်းများရရှိစေရန်အတွက်လည်းကောင်း၊ စက်မှုနည်းပညာတိုးပွားမှုရရှိစေရန် အတွက်လည်း ကောင်း၊ နိုင်ငံတော်အတွက်ရသင့်ရထိုက်သည့် အခွန်ဘဏ္ဍာငွေများရရှိ စေရန်အတွက်လည်းကောင်း၊ ရည်ရွယ်လျက် စီမံကိန်းလုပ်ငန်းအဖြစ် လုပ်ကိုင်ဆောင်ရွက်ခွင့်ရရှိရန် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားအပ်ပါသည်။

# စိုးလွင်အောင် ကုမ္ပဏီလီမိတက်

အမှတ်(၂၄၃)၊ ဗိုလ်ချုပ်လမ်း၊ ဈေးတန်းရပ်ကွက်၊ ရပ်စောက်မြို့ ။

**Ph-081-204553 , 081-204554, 09-5052411, 09-5210437, 09-8624251**

**Fax-081-204026**




၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်၏အဓိကရည်မှန်းချက်တစ်ရပ်ဖြစ်သောလမ်းပန်းဆက်သွယ်မှုလုံခြုံချောမွေ့စေရေးကိုအထောက်အကူဖြစ်စေရန်အတွက်လည်းကောင်း၊နိုင်ငံတော်အတွင်း ရသင့်ရထိုက်သောအခွန်ဘဏ္ဍာငွေများရရှိစေရန်အတွက်လည်းကောင်း၊မြန်မာနိုင်ငံသားများအတွက်အလုပ်အကိုင်အခွင့်အလမ်းများရရှိစေရန်အတွက်လည်းကောင်း စိုးလွင်အောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်၏ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)ပုဒ်မ ၁၂နှင့်၁၃တို့အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်များနှင့်သက်သာခွင့်များကိုခွင့်ပြုပေးပါရန်ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ဦးစိုးလွင်
အုပ်ချုပ်မှုဒါရိုက်တာ
စိုးလွင်အောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်

# စိုးလွင်အောင် ကုမ္ပဏီလီမိတက်

အမှတ်(၂၄၃)၊ ဗိုလ်ချုပ်လမ်း၊ ဈေးတန်းရပ်ကွက်၊ ရပ်စောက်မြို့ ။
Ph-081-204553 , 081-204554, 09-5052411, 09-5210437, 09-8624251
Fax-081-204026




ရက်စွဲ ၊၂၀၁၂ခုနှစ်၊အောက်တိုဘာလ၊( ၈ )ရက်။

သို့
ဦးဆောင်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိခံဝန်ချက်များပေးပို့ခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ စိုးလွင်အောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်အနေဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းပိုင်၊ရွှေညောင်–ရပ်စောက်လမ်းပိုင်းအား အဆင့်တိုးမြှင့်ဖောက်လုပ်တည်ဆောက်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်းအား ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ဆောင်ရွက်ရန်အတွက်ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကိရိယာများဖြင့် တည်ဆောက်လုပ်ကိုင်ခွင့်ရရှိရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ စိုးလွင်အောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်အနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် လည်းပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွား စေရန်အတွက် လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည် ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင်ကာကွယ်မှုများပြုလုပ်၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၃။ ထို့အပြင် နိုင်ငံတော်အစိုးရမှ လမ်းတံတားတည်ဆောက် ပြုပြင်ဖောက်လုပ်ခြင်းနှင့် ပတ်သက်၍ သတ်မှတ်ပြဌာန်း မည့်စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည်ဟု ဝန်ခံကတိပြုပါသည်။

၄။ ဤလုပ်ငန်းသည် လုပ်ငန်းသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဦးစိုးလွင်
အုပ်ချုပ်မှုဒါရိုက်တာ
စိုးလွင်အောင်ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်

ပုံစံ ( မနသ - ၁ )

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်
( ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈ )

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

စာအမှတ် ၊

ရက်စွဲ ။ ။၂၀၁၂ ခုနှစ်၊ အောက်တိုဘာ လ၊ (၈)ရက်။

ကျွန်တော် /ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

| | |
|---|---|
| (က) အမည် | ဦးစိုးလွင် |
| (ခ) အဖအမည် | ဦးကြည်ညွန့် |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | ၁၃/ရ စ န (နိုင်) ၀၀၇၆၃၉ |
| (ဃ) နေရပ်လိပ်စာ | အမှတ်-(၂၄၃)၊ဗိုလ်ချုပ်လမ်း၊ဈေးတန်းရပ်ကွက်၊ ရပ်စောက်မြို့၊ရှမ်းပြည်နယ်တောင်ပိုင်း။ |
| (င) လူမျိုး၊ ဘာသာ | ဗမာ / ဗုဒ္ဓ |
| (စ) အဖွဲ့အစည်းအမည် | စိုးလွင်အောင်ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် SOE LWIN AUNG CONSTRUCTION CO., LTD. |
| (ဆ) လုပ်ငန်းအမျိုးအစား | ဆောက်လုပ်ရေးလုပ်ငန်း။ |
| (ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် | အမှတ်-(၂၄၃)၊ဗိုလ်ချုပ်လမ်း၊ဈေးတန်းရပ်ကွက်၊ ရပ်စောက်မြို့၊ရှမ်းပြည်နယ်တောင်ပိုင်း။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုမည့်သူများ၏ –

(က) အမည် –..........................................................

(ခ) အဖအမည် –..........................................................

(ဂ) နိုင်ငံသား /အမျိုးသားမှတ်ပုံတင်အမှတ် –..........................................................

(ဃ) နေရပ်လိပ်စာ –..........................................................

(င) လူမျိုး၊ ဘာသာ –..........................................................

(စ) အဖွဲ့အစည်းအမည် –..........................................................

(ဆ) လုပ်ငန်းအမျိုးအစား –..........................................................

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် –..........................................................

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား –

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း –

(ခ) ဝန်ဆောင်မှုလုပ်ငန်း –ရွှေညောင်–ရပ်စောက်လမ်းပိုင်းကို ပြုပြင်ဖောက်လုပ်၍ BOT စနစ်ဖြင့်လမ်းအသုံးပြုခကောက်ခံသည့်လုပ်ငန်း။

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ–

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း – လီမိတက်ကုမ္ပဏီ ( နောက်ဆက်တွဲဇယား – ၁)

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း –..........................................................

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း –..........................................................

(ခ) နိုင်ငံခြားမှတင်သွင်းရန် လိုအပ်သည်

| | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ၏တန်ဖိုး (နောက်ဆက်တွဲဇယား-၄) | ၁,၅၀၃,၉၇၇ | ၁,၇၇၇,၇၅၀ |
| (၂) ဆောက်လုပ်ရေးပစ္စည်းများ(ကတ္တရာ) | ၁,၄၈၀,၅၀၀ | ၁,၇၅၀,၀၀၀ |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်၏တန်ဖိုးပမာဏ | - | - |
| စုစုပေါင်း | ၂,၉၈၄,၄၇၇ | ၃,၅၂၇,၇၅၀ |

(ဂ) တည်ဆောက်မှုကာလ - (၃၆) လ

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ - (၆) လ

(င) တည်ဆောက်မှုစတင်မည့်အချိန် -

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား -ရွှေညောင်-ရပ်စောက် လမ်းပိုင်းကို ပြုပြင်ဖောက်လုပ်၍ BOT စနစ်ဖြင့်လမ်းအသုံးပြုခကောက်ခံသည့်လုပ်ငန်း။

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ - ရွှေညောင်-ရပ်စောက်ဒေသ။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် -

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်

| အမျိုးအမည် | | အရေအတွက် |
|---|---|---|
| ၁။ ဒီဇယ်ဆီ | - | ဂါလံ (၃၀၀,၀၀၀) |
| ၂။ ဓါတ်ဆီ | - | ဂါလံ (၂၅,၀၀၀) |
| ၃။ စက်ဆီ၊ ချောဆီ | - | ဂါလံ (၂၅၀၀) |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက် -

၁။ လျှပ်စစ်ဓါတ်အား -

၂။ ဓါတ်ဆီ၊ဒီဇယ် အင်ဂျင်စက်အား - ( ၆၂၅ ) ကေဗွီအေ မီးစက်

၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား -

၄။ သဘာဝဓါတ်ငွေ့သုံးစက်အား -

၅။ ပေးပို့သည့် အခြားအား -

(ရေအား/လေအားစသည်များ)

(စ) နှစ်စဉ်ရေလိုအပ်ချက် -

၁။ တစ်နေ့ရေလိုအပ်ချက်ဂါလံ - ဂါလံ (၁,၈၀၀)

၂။ တစ်နှစ်ရေလိုအပ်ချက် - ဂါလံ ( ၆.၅၇ )သိန်း

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက် -

(ဇ) အဆောက်အဦးလိုအပ်ချက် -

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်း –ရွှေညောင်–ရပ်စောက်လမ်းပိုင်း
လမ်းအကျယ် –၁၈ ပေ၊ လမ်းနယ်နမိတ် ၂၀၀ပေ။

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ ဆောင်ရွက်မည့်ဝန်ဆောင်မှု – နောက်ဆက်တွဲဇယား (၃)

(ဋ) ရောင်းချမည့်စနစ် – မရှိပါ။

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့် စပ်လျဥ်းသောအချက်အလက်များ–

ခန့်မှန်းခြေ(ကျပ်ငွေ )

(က) လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့်ကျပ်ငွေ နောက်ဆက်တွဲဇယား–(၁–က)
(ခ) လိုအပ်မည့်နိုင်ငံခြားငွေ နောက်ဆက်တွဲဇယား–(၁–က)

(ဂ) ရရှိမည့် နိုင်ငံခြားငွေပမာဏ
(ဃ) ပြည်ပသို့တင်ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုးပမာဏ
(င) နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့်ကုန်ပစ္စည်း/ ဝန်ဆောင်မှု တန်ဖိုးပမာဏ နောက်ဆက်တွဲဇယား–(၃)

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းများစာရင်း–
(က) ပြည်တွင်းမှ လိုအပ်မည့်အမှုထမ်းများ နောက်ဆက်တွဲဇယား–(၁၀)

(ခ) နိုင်ငံခြားမှ လိုအပ်မည့်ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဥ်းသောအချက်အလက်များ–

ခန့်မှန်းခြေ (ကျပ်ငွေ)

(က) နှစ်စဉ်ဝင်ငွေရရှိမှု နောက်ဆက်တွဲဇယား – (၆)
(ခ) နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် နောက်ဆက်တွဲဇယား – (၆)
(ဂ) နှစ်စဉ်အသားတင်အမြတ် နောက်ဆက်တွဲဇယား – (၆)
(ဃ) နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု နောက်ဆက်တွဲဇယား – (၁–က)
(င) အရင်းကျေကာလ နောက်ဆက်တွဲဇယား – (၉)
(စ) အလုပ်အကိုင်အသစ်များ ပေါ်ပေါက်လာမည့် အခြေအနေ နောက်ဆက်တွဲဇယား – (၁၀)

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့်စပ်လျဉ်းသည့် အထောက်အထားများ၊အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါအထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်ကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်နှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) လက်ရှိဖွဲ့စည်းပြီးအဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်း/ ဖွဲ့စည်းခြင်းမရှိသေးပါကသင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

လက်မှတ်

အမည် ဦးစိုးလွင်

ရာထူး၊ အုပ်ချုပ်မှုဒါရိုက်တာ

စိုးလွင်အောင်ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်

## LIST OF SOE LWIN AUNG CONSTRUCTION CO., LTD.

## DIRECTOR LIST

Exhibit No.1

| Sr No | Name | Citizenship N.R.C No / Passport No | Designation | Address |
|---|---|---|---|---|
| 1 | U Soe Lwin | 13/Ya Sa Na (Naing) 007639 | Managing Director | No.243,Bogyoke Road,Zaytan Quarter,Yat Sauk Township,Southern Shan State. |
| 2 | U Soe Naing | 13/Ya Sa Na (Naing) 052063 | Director | No.20,Myinttar Street,Taungquatthit Quarter,Yat Sauk Township,Southern Shan State. |
| 3 | U Myint Win | 13/Ya Sa Na (Naing) 039226 | Director | No.66,Zawtika Street (2),Taungquatthit Quarter,Yat Sauk Township,Southern Shan State. |
| 4 | U Soe Htike | 13/Ya Sa Na (Naing) 049515 | Director | No.13,Ayeyaitthar Street,Taungquatthit Quarter,Yat Sauk Township,Southern Shan State. |
| 5 | U Win Nyut | 13/Ya Sa Na (Naing) 007259 | Director | No.24,Myopart Street,Taungquatthit Quarter,Yat Sauk Township,Southern Shan State. |
| 6 | U Banyar Aung Thu | 13/Ya Sa Na (Naing) 047864 | Director | Oakkyin Village,Yat Sauk Township,Southern Shan State. |
| 7 | U Tint Naing Soe | 13/Ya Sa Na (Naing) 068724 | Director | No.243,Bogyoke Road,Zaytan Quarter,Yat Sauk Township,Southern Shan State. |

## SOE LWIN AUNG CONSTRUCTION CO., LTD.

## CAPITAL COST

(Kyats in Thousand)

Exhibit No.I (A)

| Sr. No | | Particular | US$ | Equ ; Kyats | Kyats | Total Kyats |
|---|---|---|---|---|---|---|
| 1 | | 2 | 3 | 4 | 5 | 6 |
| 1 | | **Investment Type** | | | | |
| | 1 | In Cash | | | 1,332,500 | 1,332,500 |
| | 2 | Road | | | 1,327,753 | 1,327,753 |
| | 3 | ကတ္တရာ (Road) | 1,750,000 | 1,480,500 | | 1,480,500 |
| | 4 | Machinery & Equipment | 1,777,750 | 1,503,977 | | 1,503,977 |
| | 5 | Bridge | | | 36,360 | 36,360 |
| | | **Total** | **3,527,750** | **2,984,477** | **2,696,613** | **5,681,090** |

**Remark : (1) Exchange Rate 1US$ = Kyats 846**

# SOE LWIN AUNG CONSTRUCTION CO., LTD.

## SHWE NYAUNG - YAT SAUK ROAD SECTION

## ABSTRACT OF COST

Exhibit No.II

| Sr. No. | Particular | Qty | Amount Kyats (Thousand) | (USD) |
|---|---|---|---|---|
| 1 | **Road Construction Cost** | | | |
| | (A) For Main Road | | | |
| | - pavement ( 24' ) | 36 Mile | 1,199,013 | 1,750,000 |
| | - span 50' over Bridge Approach Road | 1600 Ft | 57,600 | |
| | (B) For shoulder ( width 10' ) | | | |
| | - Hard Shoulders | 8 Mile | 45,615 | |
| 2 | **Side Drain** | | | |
| | - Earth Drain | 52000 Rft | 6,760 | |
| 3 | **Retaining Wall** | 400 Rft | 12,040 | |
| 4 | **Road furniture** | | | |
| | - Guard Post | 200 Nos | 2,500 | |
| | - Mile Post | 37 Nos | 555 | |
| | - Furlong Post | 289 Nos | 2,890 | |
| | - Road Sign | 60 Nos | 780 | |
| | | | **1,327,753** | **1,750,000** |
| 5 | **Bridge** | | | |
| | - Span 50' over Bridge | 600 Rft | 22,800 | |
| | - Span 20' ~ 50' Bridge | 310 Rft | 7,750 | |
| | Span 10' ~ 20' Bridge | 40 Rft | 1,000 | |
| 6 | **Culvert** | | | |
| | - Span 5' ~ 10' Box culvert | 115 Rft | 1,725 | |
| | - Span 4' Box culvert | 40 Rft | 480 | |
| | - 3Ø pipe culvert | 217 Rft | 2,605 | |
| | | | **36,360** | - |
| | **Total cost** | | **1,364,113** | **1,750,000** |

Exhibit No.III

## ရွှေညောင် – ရပ်စောက် လမ်းပိုင်း

(၃၆ မိုင်)

### ယာဉ် (၁) စီးအတွက် (၁) ရက်ပျမ်းမျှ လမ်းအသုံးပြုခ ရရှိငွေတွက်စစ်ပုံ

(၁) ရက်ဖြတ်သန်းသည့် ယာဉ်စီးရေ (ယာဉ်မျိုးစုံ – ၃၀၀ စီး)

| | | |
|---|---|---|
| ၁။၂တန်နှင့်အောက်ယာဉ်ကိုယ်ပိုင်ယာဉ်ငယ်များ(ဆလွန်း၊ဗင်၊ဝက်ဂွန်၊ မီနီကား၊မီနီလိုက်ထရပ်)၊အငှားယာဉ်များ၊ထော်လာဂျီငယ်(ခရီးသည်တင်)။ | –၂၀စီး x ၃၆မိုင် x ၅ိ/– | ၃၆၀၀ |
| ၂။၂.၂၅ တန်/၃.၂၅ တန်ယာဉ် {ဟိုင်းလပ်၊လိုက်ထရပ်(အသေး)၊ဒဘယ်ကပ်၊ ဆပ်၊လင့်ခရုဇာ၊မှန်လုံယာဉ်ငယ်–၇ မှ ၁၂ဦး၊ထော်လာဂျီငယ်(ကုန်တင်)} | –၂၅စီး x ၃၆မိုင် x ၁၅ိ/– | ၁၃၅၀၀ |
| ၃။၄တန်ယာဉ်(ကုန်တင်ယာဉ်ငယ်) (လိုက်ထရပ်(အလတ်)–ဒိုင်နာ၊ကင်နာ/ 2000 kg၊ ထော်လာဂျီအလတ်)။ | –၂၅စီး x ၃၆မိုင် x ၂၀ိ/– | ၁၈၀၀၀ |
| ၄။၅.၅တန်/၆တန်/၇တန်ယာဉ်(ကုန်တင်ယာဉ်ငယ်){(လိုက်ထရပ် (အကြီး) –ဒိုင်နာ၊ကင်နာ/ 2750 kg၊(ကိုယ်ထည်အလျား=၁၅ပေအောက်)}မီနီဘတ်စ် (၂၄)ဦး/ ဟီးနိုးဘီအမ်(၂၅)ဦး၊ထော်လာဂျီအကြီး။ | –၂၅စီး x ၃၆မိုင် x ၂၅ိ/– | ၂၂၅၀၀ |
| ၅။(ယာဉ်+ခရီးသည် ၂၆ဦး မှ ၄၅ဦးထိ) ၁၂တန်/၁၆တန်(ဝင်ရိုး–၂ခုပါ) ခရီးသည်တင်မှန်လုံယာဉ်။(ခရီးသည်သာ–ကုန်မတင်ရ)။ | –၂၁စီး x ၃၆မိုင် x ၅၀ိ/– | ၃၇၈၀၀ |
| ၆။(ယာဉ်+ခရီးသည်/၅၅ဦးအထိ)၁၇တန်(ဝင်ရိုး–၂ခုပါ)ခရီးသည်တင်မှန်လုံ ယာဉ်ကြီး။(ခရီးသည်သာ–ကုန်မတင်ရ)။ | –၂၀စီး x ၃၆မိုင် x ၅၅ိ/– | ၃၉၆၀၀ |
| ၇။(ယာဉ်+ကုန်)(၅+၅)၁၀တန်(ဝင်ရိုး–၂ခုပါ) (ကုန်တင်ယာဉ်လတ်ငယ်(၆)ဘီး ကား–အီဇူဇူ၊ကာကို၊နီဆန်းကွန်ဒို)(ကိုယ်ထည်အလျား=၁၅ပေ မှ ၂၀ပေအထိ) | –၂၅စီး x ၃၆မိုင် x ၆၀ိ/– | ၅၄၀၀၀ |
| ၈။(ယာဉ်+ကုန်)(၆.၅+၆.၅)၁၃တန်(ဝင်ရိုး–၂ခုပါ) ကုန်တင်ယာဉ်လတ် (၆) ဘီးကား။ | –၂၅စီး x ၃၆မိုင် x ၇၅ိ/– | ၆၇၅၀၀ |
| ၉။(ယာဉ်+ကုန်)(၈+၈)၁၆တန်(ဝင်ရိုး–၂ခုပါ)ကုန်တင်ယာဉ်ကြီး(၆)ဘီးကား။ | –၂၀စီး x ၃၆မိုင် x ၁၀၀ိ/– | ၇၂၀၀၀ |
| ၁၀။(ယာဉ်+ခရီးသည် ၂၆ဦး မှ ၄၅ဦးထိ)၁၂တန်/၁၆တန်(ဝင်ရိုး–၂ခုပါ)ခရီး သည်တင်မှန်လုံယာဉ်(ကုန်တင်လာပါက)။ | –၅စီး x ၃၆မိုင် x ၁၀၀ိ/– | ၁၈၀၀၀ |
| ၁၁။(ယာဉ်+ခရီးသည်/၅၅ဦးအထိ) ၁၇တန်(ဝင်ရိုး–၂ခုပါ)ခရီးသည်တင်မှန်လုံ ယာဉ်ကြီး(ကုန်တင်လာပါက)။ | –၅စီး x ၃၆မိုင် x ၁၂၀ိ/– | ၂၁၆၀၀ |
| ၁၂။(ယာဉ်+ကုန်)(၁၀.၅+၁၀.၅) ၂၁တန်(ဝင်ရိုး–၃ခုပါ) ကုန်တင်ယာဉ်ကြီး (၁၀)ဘီးကား။ | –၁၇စီး x ၃၆မိုင် x ၁၂၅ိ/– | ၇၆၅၀၀ |
| ၁၃။(ယာဉ်+ကုန်)(၁၂.၅+၁၂.၅)၂၅တန်(ဝင်ရိုး–၄ခုပါ)ကုန်တင်ယာဉ်ကြီး (၁၂) ဘီးကား။ | –၁၈စီး x ၃၆မိုင် x ၁၅၀ိ/– | ၉၇၂၀၀ |
| ၁၄။(ယာဉ်+ကုန်)(၁၄+၂၀)၃၄တန်(ဝင်ရိုး–၄ခုပါ)ကုန်တင်ယာဉ်ကြီး(၁၄)ဘီးကား (နောက်တွဲပါ)။ | –၂၀စီး x ၃၆မိုင် x ၂၀၀ိ/– | ၁၄၄၀၀၀ |
| ၁၅။(ယာဉ်+ကုန်)(၁၅+၃၁)၄၆တန်(ဝင်ရိုး–၅ခုပါ)ကုန်တင်ယာဉ်ကြီး(၁၈)ဘီးကား (နောက်တွဲပါ)။ | –၁၂စီး x ၃၆မိုင် x ၃၀၀ိ/– | ၁၂၉၆၀၀ |
| ၁၆။(ယာဉ်+ကုန်)(၁၇+၃၈)၅၅တန်(ဝင်ရိုး–၆ခုပါ)ကုန်တင်ယာဉ်ကြီး(၂၂)ဘီးကား (နောက်တွဲပါ)။ | –၁၂စီး x ၃၆မိုင် x ၄၀၀ိ/– | ၁၇၂၈၀၀ |
| ၁၇။အမှတ်စဉ်(၉) မှ (၁၆)အထိကုန်တင်ယာဉ်ကြီးများ ကုန်မပါ အလွတ်ဖြစ်ပါက။ | –၅စီး x ၃၆မိုင် x ၁၀၀ိ/– | ၁၈၀၀၀ |
| စုစုပေါင်း | ၃၀၀စီး | ၁၀၀၆၂၀၀ |

ယာဉ် (၁)စီး ပျမ်းမျှကျသင့်ငွေ ကျပ် ၃၃၅၄

## SOE LWIN AUNG CONSTRUCTION CO., LTD.

## Machinery & Equipment

**Exhibit No.IV**

| No | Item | A / U | Qty | Pricé (US$) | Amount (US $) |
|---|---|---|---|---|---|
| 1 | Roller | Nos | 2 | 40,000 | 80,000 |
| 2 | KOBELCOSK 250 (Backhoe) | Nos | 3 | 150,000 | 450,000 |
| 3 | Motor Grader CLG 8 | Nos | 2 | 150,000 | 300,000 |
| 4 | D 7 G (Dozer) | Nos | 2 | 90,000 | 180,000 |
| 5 | Brand New Dump Truck (4 stoke) | Nos | 30 | 14,000 | 420,000 |
| 6 | 10 Wheel Dump Truck | Nos | 5 | 60,000 | 300,000 |
| 7 | ကျောက်ခွဲစက် (ကြီး) | Nos | 3 | 8,125 | 24,375 |
| 8 | ကျောက်ခွဲစက် (လတ်) | Nos | 2 | 7,000 | 14,000 |
| 9 | ကျောက်ခွဲစက် (သေး) | Nos | 5 | 1,875 | 9,375 |
| | | | | | **1,777,750** |
| 10 | ကတ္တရာ | Ton | 2000 | 875 | 1,750,000 |
| | | | | | **1,750,000** |
| | **Total** | | | | **3,527,750** |

## SOE LWIN AUNG CONSTRUCTION CO., LTD.

### TOLL FEES INCOME (SHWE NYAUNG - YAT SAUK ROAD SECTION)

### SERVICES TO BE RENDERED

**Exhibit No.V (1)**

| Year | Toll Fees In Kyats | No. Of Gates | Income In Kyats ( 365 Running Days ) | | |
|---|---|---|---|---|---|
| | Per Motor Car | | No.Of Car / Day | Income On Car/Day | Income / Year Kyats (000) |
| 1 | 2 | 3 | 4 | 5 | 6 |
| Con - 1 | 0 | 0 | 0 | 0 | 0 |
| Con - 2 | 0 | 0 | 0 | 0 | 0 |
| Con - 3 | 0 | 0 | 0 | 0 | 0 |
| 1 | 3354 | 1 | 300 | 1,006,200 | 367,263 |
| 2 | 3354 | 1 | 300 | 1,006,200 | 367,263 |
| 3 | 3354 | 1 | 305 | 1,022,970 | 373,384 |
| 4 | 3354 | 1 | 305 | 1,022,970 | 373,384 |
| 5 | 3354 | 1 | 310 | 1,039,740 | 379,505 |
| 6 | 3354 | 1 | 310 | 1,039,740 | 379,505 |
| 7 | 3354 | 1 | 315 | 1,056,510 | 385,626 |
| 8 | 3354 | 1 | 315 | 1,056,510 | 385,626 |
| 9 | 3354 | 1 | 320 | 1,073,280 | 391,747 |
| 10 | 3354 | 1 | 320 | 1,073,280 | 391,747 |
| 11 | 3354 | 1 | 337 | 1,130,298 | 412,559 |
| 12 | 3354 | 1 | 342 | 1,147,068 | 418,680 |
| 13 | 3354 | 1 | 342 | 1,147,068 | 418,680 |
| 14 | 3354 | 1 | 347 | 1,163,838 | 424,801 |
| 15 | 3354 | 1 | 347 | 1,163,838 | 424,801 |
| 16 | 3354 | 1 | 352 | 1,180,608 | 430,922 |
| 17 | 3354 | 1 | 352 | 1,180,608 | 430,922 |
| 18 | 3354 | 1 | 357 | 1,197,378 | 437,043 |
| 19 | 3354 | 1 | 357 | 1,197,378 | 437,043 |
| 20 | 3354 | 1 | 362 | 1,214,148 | 443,164 |

တစ်နှစ်တာရက်ပေါင်း 365 ရက်

# SOE LWIN AUNG CONSTRUCTION CO., LTD.

## TOLL FEES INCOME(SHWE NYAUNG - YAT SAUK ROAD SECTION)

## SERVICES TO BE RENDERED

**Exhibit No.V(2)**

| Year | Toll Fees In Kyats Per Motor Car | No. Of Gates | Income In Kyats ( 365 Running Days ) | | |
|---|---|---|---|---|---|
| | | | No.Of Car / Day | Income On Car/Day | Income / Year Kyats (000) |
| 1 | 2 | 3 | 4 | 5 | 6 |
| 21 | 3354 | 1 | 382 | 1,281,228 | 467,648 |
| 22 | 3354 | 1 | 387 | 1,297,998 | 473,769 |
| 23 | 3354 | 1 | 392 | 1,314,768 | 479,890 |
| 24 | 3354 | 1 | 397 | 1,331,538 | 486,011 |
| 25 | 3354 | 1 | 402 | 1,348,308 | 492,132 |
| 26 | 3354 | 1 | 407 | 1,365,078 | 498,253 |
| 27 | 3354 | 1 | 412 | 1,381,848 | 504,375 |
| 28 | 3354 | 1 | 417 | 1,398,618 | 510,496 |
| 29 | 3354 | 1 | 422 | 1,415,388 | 516,617 |
| 30 | 3354 | 1 | 427 | 1,432,158 | 522,738 |
| 31 | 3354 | 1 | 442 | 1,482,468 | 541,101 |
| 32 | 3354 | 1 | 442 | 1,482,468 | 541,101 |
| 33 | 3354 | 1 | 442 | 1,482,468 | 541,101 |
| 34 | 3354 | 1 | 442 | 1,482,468 | 541,101 |
| 35 | 3354 | 1 | 442 | 1,482,468 | 541,101 |
| 36 | 3354 | 1 | 442 | 1,482,468 | 541,101 |
| 37 | 3354 | 1 | 442 | 1,482,468 | 541,101 |
| 38 | 3354 | 1 | 442 | 1,482,468 | 541,101 |
| 39 | 3354 | 1 | 442 | 1,482,468 | 541,101 |
| 40 | 3354 | 1 | 442 | 1,482,468 | 541,101 |
| | **Total** | | | | **18,436,603** |

**SOE LWIN AUNG CONSTRUCTION CO., LTD.**

**SHWE NYAUNG - YAT SAUK ROAD SECTION**

**LIST OF PERSONNEL REQUIREMENT**

**(Kyats In Thousand)**

**Exhibit No. X**

| Sr No | Description | No. Of Requirement | Pay Scale ( Ks ) | Salary Amount ( Ks )Per Year |
|---|---|---|---|---|
| A | **LOCAL PERSONNEL** | | | |
| 1 | Project Manager | 1 | 250 | 3,000 |
| 2 | Project Engineer | 2 | 200 | 4,800 |
| 3 | Plant & Mechanical Engineer | 2 | 150 | 3,600 |
| 4 | Admin Manager | 1 | 120 | 1,440 |
| 5 | Toll Gate Manager | 1 | 100 | 1,200 |
| 6 | Construction Asst: Engineer | 2 | 100 | 2,400 |
| 7 | Maintenance Asst: Engineer | 2 | 100 | 2,400 |
| 8 | Plant & Mechanical Asst: Engineer | 2 | 100 | 2,400 |
| 9 | Driver | 30 | 70 | 25,200 |
| 10 | Store Keeper | 2 | 60 | 1,440 |
| 11 | Toll Staff | 6 | 60 | 4,320 |
| 12 | General Staff | 5 | 60 | 3,600 |
| 13 | Motor Transport Officer | 1 | 80 | 960 |
| 14 | Mechanic | 2 | 60 | 1,440 |
| 15 | Helper | 5 | 60 | 3,600 |
| 16 | Road Laying Worker | 50 | 60 | 36,000 |
| 17 | Quarry Production Worker | 30 | 60 | 21,600 |
| | **Total** | **144** | | **119,400** |

Remark : (1) Salaries will be increased at the rate of 2% per year.

## SOE LWIN AUNG CONSTRUCTION CO., LTD.

## LIST OF PERSONNEL REQUIREMENT AND SALARY

Exhibit No.X (A-1)
(Kyats In Thousand)

| Sr | Decription | No of Requirement | Annual Cost of Employee | | | | |
|---|---|---|---|---|---|---|---|
| | | | Year -1 | Year -2 | Year -3 | Year -4 | Year -5 |
| | LOCAL PERSONNEL | | | | | | |
| 1 | Project Manager | 1 | 3,000 | 3,060 | 3,120 | 3,180 | 3,240 |
| 2 | Project Engineer | 2 | 4,800 | 4,896 | 4,992 | 5,088 | 5,184 |
| 3 | Plant & Mechanical Engineer | 2 | 3,600 | 3,672 | 3,744 | 3,816 | 3,888 |
| 4 | Admin Manager | 1 | 1,440 | 1,469 | 1,498 | 1,527 | 1,556 |
| 5 | Toll Gate Manager | 1 | 1,200 | 1,224 | 1,248 | 1,272 | 1,296 |
| 6 | Construction Asst: Engineer | 2 | 2,400 | 2,448 | 2,496 | 2,544 | 2,592 |
| 7 | Maintenance Asst: Engineer | 2 | 2,400 | 2,448 | 2,496 | 2,544 | 2,592 |
| 8 | Plant & Mechanical Asst: Engineer | 2 | 2,400 | 2,448 | 2,496 | 2,544 | 2,592 |
| 9 | Driver | 30 | 25,200 | 25,704 | 26,208 | 26,712 | 27,216 |
| 10 | Store Keeper | 2 | 1,440 | 1,469 | 1,498 | 1,527 | 1,556 |
| 11 | Toll Staff | 6 | 4,320 | 4,406 | 4,492 | 4,578 | 4.664 |
| 12 | General Staff | 5 | 3,600 | 3,672 | 3,744 | 3,816 | 3.888 |
| 13 | Motor Transport Officer | 1 | 960 | 979 | 998 | 1,017 | 1,036 |
| 14 | Mechanic | 2 | 1,440 | 1,469 | 1,498 | 1,527 | 1,556 |
| 15 | Helper | 5 | 3,600 | 3,672 | 3,744 | 3,816 | 3,888 |
| 16 | Road Laying Worker | 50 | 36,000 | 36,720 | 37,440 | 38,160 | 38,880 |
| 17 | Quarry Production Worker | 30 | 21,600 | 22,032 | 22,464 | 22,896 | 23,328 |
| | **Total** | **144** | **119,400** | **121,788** | **124,176** | **126,564** | **128,952** |

## SOE LWIN AUNG CONSTRUCTION CO., LTD.

## LIST OF PERSONNEL REQUIREMENT AND SALARY

Exhibit No.X (A-2)

(Kyats In Thousand)

| Sr | Decription | No of Requirement | Annual Cost of Employee | | | | |
|---|---|---|---|---|---|---|---|
| | | | Year -6 | Year -7 | Year -8 | Year -9 | Year -10-40 |
| | LOCAL PERSONNEL | | | | | | |
| 1 | Project Manager | 1 | 3,300 | 3,360 | 3,420 | 3,480 | 3,540 |
| 2 | Project Engineer | 2 | 5,280 | 5,376 | 5,472 | 5,568 | 5,664 |
| 3 | Plant & Mechanical Engineer | 2 | 3,960 | 4,032 | 4,104 | 4,176 | 4,248 |
| 4 | Admin Manager | 1 | 1,585 | 1,614 | 1,643 | 1,672 | 1,701 |
| 5 | Toll Gate Manager | 1 | 1,320 | 1,344 | 1,368 | 1,392 | 1,416 |
| 6 | Construction Asst: Engineer | 2 | 2,640 | 2,688 | 2,736 | 2,784 | 2,832 |
| 7 | Maintenance Asst: Engineer | 2 | 2,640 | 2,688 | 2,736 | 2,784 | 2,832 |
| 8 | Plant & Mechanical Asst: Engineer | 2 | 2,640 | 2,688 | 2,736 | 2,784 | 2,832 |
| 9 | Driver | 30 | 27,720 | 28,224 | 28,728 | 29,232 | 29,736 |
| 10 | Store Keeper | 2 | 1,585 | 1,614 | 1,643 | 1,672 | 1,701 |
| 11 | Toll Staff | 6 | 4,750 | 4,836 | 4,922 | 5,008 | 5,094 |
| 12 | General Staff | 5 | 3,960 | 4,032 | 4,104 | 4,176 | 4,248 |
| 13 | Motor Transport Officer | 1 | 1,055 | 1,074 | 1,093 | 1,112 | 1,131 |
| 14 | Mechanic | 2 | 1,585 | 1,614 | 1,643 | 1,672 | 1,701 |
| 15 | Helper | 5 | 3,960 | 4,032 | 4,104 | 4,176 | 4,248 |
| 16 | Road Laying Worker | 50 | 39,600 | 40,320 | 41,040 | 41,760 | 42,480 |
| 17 | Quarry Production Worker | 30 | 23,760 | 24,192 | 24,624 | 25,056 | 25,488 |
| | **Total** | **144** | **131,340** | **133,728** | **136,116** | **138,504** | **140,892** |

(၇၃)




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ဆောက်လုပ်ရေးဝန်ကြီးဌာန

**ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း**

**ရုံးအမှတ် (၁၁)၊ နေပြည်တော်**

ဖုန်း - ၀၆၇ - ၃၀၀၀၇၂၊ ဖက်(စ်) - ၀၆၇ - ၄၀၇၀၇၃

အီးမေးလ် - PW Const @ mpt mail-net.mm


---

စာအမှတ်၊ လစမ/B.O.T/ကြိုတင်/၂၀၁၁-၂၀၁၂/၇၄၆၂

ရက် စွဲ ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာလ ( ၈ ) ရက်

အကြောင်းအရာ။ **B.O.T. စနစ်ဖြင့် လမ်း၊ တံတားလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ရန်အတွက် လုပ်ငန်း ကြိုတင်ခွင့်ပြုမိန့်ထုတ်ပေးခြင်း။**

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသည် **စိုးလွင်အောင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်** အား ရွှေညောင် - ရပ်စောက်လမ်း ( မိုင် ၀/၀-၃၆/၀ ထိ ၃၆/၀ မိုင် ) အား B.O.T. စနစ်ဖြင့် စတင်အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရေးအတွက် ( ၄ - ၁၁ - ၂၀၁၁ ) နေ့တွင် ကျင်းပပြုလုပ်သည့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေး အမှတ်စဉ် ( ၂၈ / ၂၀၁၁ ) မှ သတ်မှတ်ပေးသည့် လုပ်ငန်းကြိုတင် ဆောင်ရွက်ခွင့် မူဝါဒ ( ၂၄ ) ချက် နှင့် ပြည့်စုံ၍ သဘောတူလက်မှတ်ရေးထိုးပြီး ဖြစ်သည့်အတွက် လုပ်ငန်းကို ကြိုတင်ဆောင်ရွက်ရန် ခွင့်ပြုလိုက်သည်။

၂။ သို့ဖြစ်ပါ၍ ဖော်ပြပါ ကုမ္ပဏီသည် ကြိုတင်ခွင့်ပြုမိန့် ရရှိပြီး ( ၇ ) ရက်အတွင်း လုပ်ငန်းခွင်သို့ စတင်ဝင်ရောက်၍ လမ်း၊ တံတား အသုံးပြုခကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ သတ်မှတ် နှုန်းထားအတိုင်း ကောက်ခံရန်၊ ( ၂ ) ပတ် အတွင်း ကုမ္ပဏီဆိုင်းဘုတ်တပ်ဆင်ရန်နှင့် ( ၁ ) လအတွင်း B.O.T. အဆိုပြုလွှာ အပြည့်အစုံနှင့် တင်ပြ၍ လျှောက်ထားရမည်။

(ကျော်လင်း)

ဦးဆောင်ညွှန်ကြားရေးမှူး

စိုးလွင်အောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
ပြည်နယ်အင်ဂျင်နီယာမှူးကြီးရုံး
ရှမ်းပြည်နယ် (တောင်ပိုင်း) တောင်ကြီးမြို့

စာအမှတ် ၊ ၉၉၈ / ၂၀၁၁-၂၀၁၂/ ရပန/လ၀/ BOT
ရက်စွဲ ၊ ၂၀၁၁ ခုနှစ် ၊ နိုဝင်ဘာလ ( ၁၄ ) ရက်

သို့

ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်
တောင်ကြီးမြို့




အကြောင်းအရာ ။ BOT စနစ်ဖြင့် လမ်း / တံတားလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရန်အတွက် လုပ်ငန်းကြိုတင်ခွင့်ပြုမိန့်ထုတ်ပေးခြင်းကိစ္စ။

ရည်ညွှန်းချက် ။ ဦးဆောင်ညွှန်ကြားရေးမှူး၊ နေပြည်တော်၏ (၈. ၁၁. ၂၀၁၁) ရက်စွဲပါစာအမှတ် ၁၁၈၈/BOT/ကြိုတင်/၂၀၁၁-၂၀၁၂/၃၆၂

အထက်ရည်ညွှန်းပါစာကိစ္စနှင့် ပတ်သက်၍ ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်အတွင်းရှိ ရွှေညောင်-ရပ်စောက်လမ်း မိုင် ၀/၀-၃၆/၁-၃၆ မိုင် အား စိုးလွင်အောင်ကုမ္ပဏီလီမိတက်သို့ BOT စနစ်ဖြင့် လုပ်ငန်းကြိုတင်ဆောင်ရွက်ခွင့်ပြုကြောင်းအား သိရှိနိုင်ပါရန် အစီရင်ခံတင်ပြအပ်ပါသည်။

ပူးတွဲပါ - ရည်ညွှန်းပါစာ - (၁) စောင်




( ကျော်ရှိန်း )
အင်ဂျင်နီယာမှူးကြီး

မြန်မာ (signature) ၁၄၊၁၁၊၂၀၁၁

မိတ္တူကို -
- ၀န်ကြီးရုံး ၊ လမ်းပန်းဆက်သွယ်ရေးဝန်ကြီးဌာန ၊ တောင်ကြီးမြို့။
- ခရိုင်အင်ဂျင်နီယာမှူး ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၊ တောင်ကြီးမြို့ထံသို့ လုပ်ငန်းလွှဲပြောင်းရေးကိစ္စအား ကြီးကြပ်ဆောင်ရွက်ရန်နှင့် ဆောင်ရွက်ပြီးစီးမှုပြန်လည်တင်ပြရန်။
- မြို့နယ်အင်ဂျင်နီယာ ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၊ တောင်ကြီး / ရပ်စောက်မြို့။
- တာဝန်ခံ ၊ စိုးလွင်အောင်ကုမ္ပဏီလီမိတက် ၊ ရပ်စောက်မြို့။
- ရုံးလက်ခံ။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပြည်ထောင်စုရှေ့နေချုပ်ရုံး
## နေပြည်တော်

စာအမှတ်၊ ၂(၅) ၄ - ၅၁ /နပတ( ၆၇၉ )

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ ၁၂ ရက်

အကြောင်းအရာ။ **ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် စိုးလွင်အောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုမည့် B.O.T စာချုပ်(မူကြမ်း)အပေါ် သဘောထားမှတ်ချက်ပေးရန်ကိစ္စ**

ရည် ညွှန်း ချက် ။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၂၉-၁၁-၂၀၁၂ ရက်စွဲပါစာအမှတ်၊ ၁/ခွဲ -၂ /ထွေ/ ၂၀၁၂(ကုမ္ပဏီ)(စီ ၁၀၉၂၅)

၁။ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် စိုးလွင်အောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်တို့သည် ရွှေညောင်-ရပ်စောက်လမ်းပိုင်း(၃၆/၀)မိုင်နှင့် B.O.T စနစ်ဖြင့် လမ်းပြုပြင်ဖောက်လုပ်ခြင်းလုပ်ငန်းလုပ်ကိုင်ရေးနှင့်လွှဲပြောင်းပေးရေးဆောင်ရွက်ရန် ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)အပေါ် ဥပဒေကြောင်းအရ သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသောစာချုပ်(မူကြမ်း)မှာ ဤရုံး၏ ၂၆-၆-၂၀၁၂ ရက်စွဲပါစာအမှတ်၊၂(၅)၄-၂၅/နပတ(၂၅၉)ဖြင့် အကြံပြုပြန်ကြားခဲ့သော ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် ဆုထူးပန်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုမည့်စာချုပ် (မူကြမ်း) နှင့် အလားတူပြုစုထားသည်ကို တွေ့ရှိရပါသည်။

၃။ ရည်ညွှန်းချက်ပါစာဖြင့် ပူးတွဲပေးပို့လာသော စာချုပ်(မူကြမ်း)အပေါ်ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်းသုံးသပ်အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) အပိုဒ် ၆ အရ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဘဏ်အာမခံကို ပြည်ထောင်စုမြန်မာနိုင်ငံတော် ငွေရေးကြေးရေးဆိုင်ရာ အဖွဲ့အစည်းများ ဥပဒေနှင့် ဗဟိုဘဏ်ဥပဒေများအရ ဗဟိုဘဏ်ကတရားဝင်ဘဏ်လုပ်ငန်း လုပ်ကိုင်ခွင့်ပြုချက်ရရှိထားပြီး တရားဝင်ဘဏ်လုပ်ငန်းလုပ်ကိုင်လျက်ရှိ သည့် နိုင်ငံတော်ဘဏ် သို့မဟုတ် ဘဏ်တစ်ခုခု၌ထားရှိသင့်ပါသည်။ ဘဏ် အာမခံပုံစံမှာသက်ဆိုင်ရာဘဏ်က သတ်မှတ်ထားသော ဘဏ်အာမခံပုံစံဖြစ် ရန်လိုအပ်ပြီးစာချုပ်(မူကြမ်း)ပါ စည်းကမ်းချက်များနှင့် ညီညွတ်ရန်လိုအပ်ပါ သည်။ ထို့အပြင် အဆိုပါ ဘဏ်အာမခံပုံစံအား စာချုပ်တွင် နောက်ဆက်တွဲ အဖြစ် ပူးတွဲဖော်ပြရန်ဖြစ်ပါသည်၊

(ခ) လိုအပ်သောနေရာအချို့တွင်မင်နီဖြင့်အနည်းငယ်ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီဥပဒေကြောင်းအရသာ ဥပဒေ အကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှု ဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့်မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ် များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြု ပါသည်။

၄။ စိုးလွင်အောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်သည် ဥပဒေအရ တရားဝင်ဖွဲ့စည်း ထားသောကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းများကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ် ခြင်းခံရသူဟုတ် မဟုတ် စသည်တို့နှင့်စပ်လျဉ်း၍ ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ စာချုပ်မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
( မေသီလင်း၊ ညွှန်ကြားရေးမှူး )

**ဆောက်လုပ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**



M-017/E /DMMA/Soe Nyne Aung (BOT)(7-12-2012)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ဆောက်လုပ်ရေးဝန်ကြီးဌာန

ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

နှင့်

" စိုးလွင်အောင် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် "

တို့အကြားချုပ်ဆိုသည့်

ရွှေညောင် – ရပ်စောက်လမ်း

အပိုင်းကို

ဖောက်လုပ် ပြုပြင် အဆင့်မြှင့်တင်ခြင်း၊ လုပ်ငန်းလုပ်ကိုင်ခြင်း နှင့်

လွှဲပြောင်းပေးခြင်း

(BUILD OPERATE AND TRANSFER)

ပဋိညာဉ်စာချုပ်

ကန်ထရိုက်နံပါတ် ( ၂၀၁၂–၁၃/ဘီအိုတီ/ )

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ လ၊ ( ) ရက်

( ဂ ) "အမြဲတမ်းလုပ်ငန်းများ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ပါ စီမံကိန်းလုပ်ငန်းတွင် အကျုံးဝင်သောပုံစံပြု ဆောင်ရွက်ရမည့် အမြဲတမ်းလုပ်ငန်းများကို ခေါ်ဆိုပါသည်။

( ဃ ) **"စက်ရုံ၊ အလုပ်ရုံ"** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များအရ **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"**မှ ဤစီမံကိန်းလုပ်ငန်းတွင် အကျုံးဝင်သော အမြဲတမ်းလုပ်ငန်းများဆောင်ရွက်ရာတွင် အထောက်အကူဖြစ်စေရန် ရည်ရွယ်၍ စက်ပစ္စည်း၊ ကိရိယာ (လိုအပ်ပါက နိုင်ငံခြားမှ မှာယူတင်သွင်းသည့် စက်ပစ္စည်း၊ ကိရိယာ) များတပ်ဆင်သည့် စက်ရုံ၊ အလုပ်ရုံကိုခေါ်ဆိုသည်။

( င ) "အပိုင်း" ဆိုသည်မှာ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"မှ တာဝန်ယူ ပုံစံပြုဆောက်လုပ်ရမည့်လုပ်ငန်းတစ်စိတ်တစ်ပိုင်းကို ဆိုလိုသည်။

( စ ) "လုပ်ငန်းခွင်နေရာ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်တွင် ရည်ညွှန်းဖော်ပြထားသည့် လုပ်ငန်းတစ်စိတ်တစ်ပိုင်း၏ နေရာများ **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"**မှ လုပ်ငန်းဆောင်ရွက်ရန်သတ်မှတ်ပေးထားသည့်နေရာများ၊ ရုံးအဆောက်အအုံ၊ စက်ရုံ၊ အလုပ်ရုံတည်ဆောက်ထားသည့်နေရာများ၊ ပစ္စည်းများ စုပုံထားသည့်နေရာများကို ခေါ်ဆိုပါသည်။

( ဆ ) **"ယာယီလုပ်ငန်းများ"** ဆိုသည်မှာ ဤစီမံကိန်း "လုပ်ငန်း" ကို ပြီးစီးအောင် အကောင်အထည်ဖော်ဆောင်ရွက်ရာတွင်လည်းကောင်း၊ လုပ်ငန်း၏ ပျက်စီးယိုယွင်းနေသည့် အစိတ်အပိုင်းများပြုပြင်ဆောင်ရွက်ရာတွင်လည်းကောင်း၊ အထောက်အကူပြုသည့်လုပ်ငန်းများကိုခေါ်ဆိုပါသည်။

( ဇ ) "ပြောင်းလဲခြင်း" ဆိုသည်မှာ ဤ ပဋိညာဉ်အပိုဒ် ၁၆ ပါ စည်းကမ်းချက်များ အရ **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"**၏ တရားဝင်ကိုယ်စားလှယ်မှအတည်ပြုပြီးသောလုပ်ငန်းပြောင်းလဲခြင်း၊ (သို့မဟုတ်)**"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"**၏ တရားဝင်ကိုယ်စားလှယ်မှ လုပ်ငန်းသဘာဝအရ လုပ်ငန်းပိုမိုကောင်းမွန်စေရန် လုပ်ငန်းပြောင်းလဲလုပ်ကိုင်ရန် တရားဝင်ညွှန်ကြားသည့်လုပ်ငန်းများကို ဆိုလိုသည်။

( ဈ ) **"စာချုပ်"** ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ကိုဆိုလိုသည်။

( ည ) "လုပ်ငန်းအပြီးသတ်ဆောင်ရွက်ပြီးစီးမှုလက်မှတ်" (**Final Completion Certificate**) ဆိုသည်မှာပဋိညာဉ်စာချုပ်၏ နောက်ဆက်တွဲ(က)ပါ နည်းပညာဆိုင်ရာစံချိန်စံညွှန်း သတ်မှတ်ချက်များ (**Technical Specifications**) နှင့်အညီ လမ်းမကြီးကို ဖောက်လုပ်ပြီးစီးသည့်အခါ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" မှ စစ်ဆေး၍ ယင်းနည်းပညာဆိုင်ရာ စံချိန်စံညွှန်းသတ်မှတ်ချက်များနှင့် ကိုက်ညီစွာဖောက်လုပ်ထားကြောင်းတွေ့ရှိရှိချိန်တွင် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အား "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" မှ ထုတ်ပေးသည့်လက်မှတ်ဖြစ်သည်။

## ရွှေညောင် - ရပ်စောက်လမ်းအပိုင်းကို
## ဖောက်လုပ် ပြုပြင် အဆင့်မြှင့်တင်ခြင်း ၊ လုပ်ငန်းလုပ်ကိုင်ခြင်း နှင့် လွှဲပြောင်းပေးခြင်း
## (BUILD OPERATE AND TRANSFER )
## ပဋိညာဉ်စာချုပ်

ဤစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နေပြည်တော်တွင် ၂၀၁၂ ခုနှစ်၊ လ ( ) ရက်နေ့၌ ဦးဆောင်ညွှန်ကြားရေးမှူး၊ ဦးကျော်လင်း ကိုယ်စားပြုသော ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ အဆောက်အဦအမှတ် (၁၁)၊ နေပြည်တော် ( ဤမှ နောင်တွင် **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားများအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော် လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက၊ ယင်း၏ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများပါဝင်သည်ဟု မှတ်ယူရမည်) က တစ်ဖက်

**နှင့်**

အုပ်ချုပ်မှုဒါရိုက်တာ၊ ဦးစိုးလွင်၊ နိုင်ငံသားစိစစ်ရေးကဒ်အမှတ် - ၁၃/ရစန (နိုင်) ၀၀၇၆၃၉၊ ကိုယ်စားပြုသော စိုးလွင်အောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်၊ အမှတ် (၂၄၃)၊ ဗိုလ်ချုပ်လမ်း၊ ဈေးတန်းရပ်ကွက်၊ ရပ်စောက်မြို့နယ်၊ ရှမ်းပြည်နယ် (တောင်ပိုင်း) (ဤမှနောင်တွင် **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** ဟု ရည်ညွှန်းခေါ်ဆိုရမည်ဖြစ်ရာ ယင်းစကားရပ်တွင် စာသားများ အရသော် လည်းကောင်း၊ အဓိပ္ပါယ်အရသော် လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင် ကွဲလွဲခြင်းမရှိပါက ယင်း၏တရားဝင် ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည်) က အခြားတစ်ဖက်တို့ ချုပ်ဆိုကြပါသည်။

**နိဒါန်း**

**"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** သည် လမ်းနှင့်တံတားအသုံးပြုခနှင့် အခြားအကျိုးခံစားခွင့်များကို ထည့်သွင်းစဉ်းစား၍ စာချုပ်ပါလုပ်ငန်းများ ဆောင်ရွက်ရန် အလို့ငှာ ဤပဋိညာဉ်စာချုပ်ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ နှစ်ဦးနှစ်ဖက်အကြေအလည်ညှိနှိုင်းပြီးနောက် အောက်ပါအတိုင်း သဘောတူကြပါသည်။

**အဓိပ္ပါယ်ဖွင့်ဆိုချက်များ**

၁။ အဓိပ္ပါယ်ဖွင့်ဆိုချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

( က ) **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူပိုင်စက်ယန္တရားများ"** ဆိုသည်မှာ ဤစီမံကိန်းလုပ်ငန်းကို ပြီးစီးအောင်ဆောင်ရွက်ရာတွင်လည်းကောင်း၊ လုပ်ငန်းပျက်စီးသည့်အစိတ်အပိုင်းများပြုပြင်ဆောင်ရွက်ရာတွင်လည်းကောင်း၊ အသုံးပြုမည့်စက်၊ ယာဉ်၊ ယန္တရားများ၊ စက်သုံးကိရိယာတန်ဆာပလာ ပစ္စည်းများကို ခေါ်ဆိုသည်။ အမြဲတမ်းလုပ်ငန်းများအတွက် ရည်ရွယ်၍ တည်ဆောက်ထားသော အဆောက်အအုံ၊ စက်ရုံ၊ အလုပ်ရုံ၊ လုပ်ငန်းသုံးပစ္စည်းများ ပါဝင်ခြင်းမရှိစေရပါ။

( ခ ) **"ပစ္စည်း"** ဆိုသည်မှာ (စက်ရုံ၊ အလုပ်ရုံများမှအပ) ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များအရ စီမံကိန်းလုပ်ငန်းအတွက် လိုအပ်သော **" လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ "** မှ ဝယ်ယူသည့် လိုအပ်ပါက နိုင်ငံခြားမှ မှာယူတင်သွင်းသော ပစ္စည်းများအပါအဝင် လုပ်ငန်းသုံးပစ္စည်းများအားလုံးကို ခေါ်ဆိုသည်။

**ဆောင်ရွက်ရမည့်လုပ်ငန်းများ**

၂။ ဤစီမံကိန်းလုပ်ငန်းလမ်းမကြီး ဖောက်လုပ်တည်ဆောက်ရာတွင် ဆောင်ရွက်ရမည့်လုပ်ငန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

( က ) လမ်းနယ်နိမိတ်အတွင်းသစ်ပင်များခုတ်လှဲခြင်း၊ သစ်ငုတ်များဖယ်ရှားခြင်း၊ရှင်းလင်းခြင်းလုပ်ငန်း။
( ခ ) လမ်းကြောင်းမြေတူးဖော်ခြင်းလုပ်ငန်း။
( ဂ ) လမ်းကြောင်းမြေဖို့ရန် အခြားနေရာများမှ မြေတူးခြင်းလုပ်ငန်း။
( ဃ ) လမ်းမြေသား တာဘောင်ဖို့ခြင်းလုပ်ငန်း။
( င ) လက်ရှိလမ်းကိုချဲ့ခြင်း ( **Widening** )။
( စ ) ဒု-အခြေခံလွှာ တည်ဆောက်ခြင်းလုပ်ငန်း။
( ဆ ) အခြေခံလွှာ တည်ဆောက်ခြင်းလုပ်ငန်း။
( ဇ ) လမ်းမျက်နှာပြင်ညှိလွှာ ( **Regulating Course** ) တည်ဆောက်ခြင်းလုပ်ငန်း။
( ဈ ) ကတ္တရာဖြင့် ( **Penetration Macadam** ) တည်ဆောက်ခြင်းလုပ်ငန်း။
( ည ) ကတ္တရာရေပိတ်လွှာနှစ်ထပ်လောင်းခြင်းလုပ်ငန်း။
( ဋ ) လမ်းပုခုံးများတည်ဆောက်ခြင်း၊ လမ်းဘေးဝဲ/ယာရေနုတ်မြောင်းတူးဖော်ခြင်းလုပ်ငန်း၊ နိမ့်သောမြေသားမျက်နှာပြင်များ ပြုပြင်ခြင်းလုပ်ငန်းများ။
( ဌ ) လမ်းသားနှင့် ဝဲ/ယာရေနုတ်မြောင်း၊ ကြားဖြတ်ရေနုတ်မြောင်းများတည်ဆောက်ခြင်း။
( ဍ ) လမ်းအကွာအဝေးပြမိုင်တိုင်များစိုက်ထူခြင်းလုပ်ငန်း၊ လမ်းအမှတ်အသားပြတိုင်များ စိုက်ထူခြင်းလုပ်ငန်း၊ အဆင့်မီ လမ်း-တံတားအသုံးပြုခကောက်ခံရန်ဂိတ်များ၊ ကောက်ခံသည့်ရုံးများ၊ ထိန်းချုပ်ရေးနှင့် ဆက်သွယ်ရေးစခန်းများ၊ ယာဉ်ရပ်နားစခန်းများ၊ လမ်းကူးလမ်းစပ်များ၊ နားခိုရန်နေရာများ၊ အပန်းဖြေစခန်းများနှင့် ကြော်ငြာဆိုင်းဘုတ်များစိုက်ထူရန်အတွက် ပုံစံပြုရန်နှင့် တည်ဆောက်ရန်၊ မြို့ရှောင်လမ်းများဖောက်လုပ်ပေးရန်။
( ဎ ) စီမံကိန်းလုပ်ငန်း လမ်းမကြီးနှင့် ဆက်သွယ်သည့်လမ်းများ ဖောက်လုပ်ခြင်း။
( ဏ ) လမ်း-တံတားအသုံးပြုခကောက်ခံရေးဂိတ်များနှင့် အခြားအထောက်အကူပြုအဆောက်အအုံများ တည်ဆောက်ခြင်းလုပ်ငန်း။

**စံချိန်စံညွှန်းများ**

၃။ **"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"** သည် **"လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ"** မှ သတ်မှတ်ထားသည့် **နောက်ဆက်တွဲ (က)** ပါ နည်းပညာဆိုင်ရာစံချိန်စံညွှန်းများနှင့် ကိုက်ညီအောင် လုပ်ငန်းများကို အကောင်အထည်ဖော်ဆောင်ရွက်ပေးရမည်၊ အချို့လုပ်ငန်းများဆောင်ရွက်ရာတွင် သတ်မှတ်ချက်များအတိုင်း ဆောင်ရွက်ရန် မဖြစ်နိုင်ပါက လိုအပ်သလို ညှိနှိုင်းဆောင်ရွက်ခွင့်ရှိသည်-

( က ) **လမ်းမြေသားတာဘောင်ဖို့ခြင်း။** လမ်းမြေသားတာဘောင်ဖို့ခြင်းဆောင်ရွက်ရာတွင် မြေသားအတွင်း သစ်ပင်သစ်ဆွေးများ၊ ကျန်းမာရေးထိခိုက်စေနိုင်သည့် ပစ္စည်းများ မပါဝင်စေရန် သတိပြုဆောင်ရွက်ရမည်၊ သတ်မှတ်ထားသည့် အမြင့်နှင့် လမ်းသားပုံရရှိစေရန် ဆောင်ရွက်ပေးရမည်၊ မြေသားသိပ်သည်းမှုသည် သတ်မှတ်ချက်၏ (၉၀) ရာခိုင်နှုန်းထက် မနည်းစေရ။
( ခ ) **အောက်ခံမြေ။** အောက်ခံမြေသားမှာလမ်းသားအလွှာအောက်ရှိ တူးထုတ်ထားသော(သို့မဟုတ်)ဖို့ထားသောမြေသားအလွှာဖြစ်ပါသည်၊ အောက်ခံမြေသားကို သတ်မှတ်ရွေးချယ်ထားသောမြေသားဖြင့် သတ်မှတ်သိပ်သည်းမှုရရှိအောင် ကြိတ်ထားသည့်အနည်းဆုံး (၁၂) လက်မအထူရှိသည့် မြေသားအလွှာဖြစ်ပါသည်၊ သိပ်သည်းမှုမှာ သတ်မှတ်သိပ်သည်းမှု၏ (၉၅) ရာခိုင်နှုန်း (သို့မဟုတ်)၄င်းအထက်ရှိရမည်၊ စီ-ဘီ-အာ(ရေစိမ်)တန်ဖိုးသည် (၅) ရာခိုင်နှုန်းထက် မနည်းရှိစေရမည်။

( ဂ ) **လမ်းဟောင်းကိုချဲ့ခြင်း (Widening) နှင့်ထပ်ပိုးလွှာတင်ခြင်း (Overlay)။** လမ်းဟောင်းကိုချဲ့ခြင်းနှင့်ထပ်ပိုးလွှာတင်ခြင်းဆောင်ရွက်ရာတွင် လမ်းသုတေသနဓါတ်ခွဲခန်းမှ အတည်ပြုပေးထားသည့် လမ်းသားအထူနှင့် သတ်မှတ်ပေးသည့် တည်ဆောက်ပုံနည်းစနစ်အတိုင်း လိုက်နာဆောင်ရွက်ရမည်၊ ထပ်မံတိုးချဲ့ခြင်း နှင့် ထပ်ပိုးလွှာတင်သည့်အပိုင်းကို ကျစ်လျစ်သိပ်သည်းမှုရရှိအောင် စက်ယန္တရားများဖြင့် ခင်းကြိတ်ရမည်။

( ဃ ) **ဒု-အခြေခံလွှာ။** ဒု-အခြေခံလွှာ၏ အနည်းဆုံးလိုအပ်ချက်မှာ ကျောက်ရောမြေ (သို့မဟုတ်) ဂဝံ (သို့မဟုတ်) ခွဲကျောက်အား (၁၂) လက်မ (သိပ်သည်းပြီး) ရရှိအောင်ကြိတ်ထားသောအလွှာကို ခေါ်ဆိုပါသည်၊ သတ်မှတ်သိပ်သည်းမှုမှာ (၉၅) ရာခိုင်နှုန်းရှိရမည်ဖြစ်ပြီး စီ-ဘီ-အာ(ရေစိမ်)တန်ဖိုးသည် (၃၀) ရာခိုင်နှုန်း (သို့မဟုတ်) ၎င်းအထက်ရှိစေရမည်။

( င ) **အခြေခံလွှာ။** ဒု-အခြေခံလွှာနှင့်အပေါ်မျက်နှာပြင်အကြားရှိပြီး အနည်းဆုံး ခွဲကျောက်ကို ( ၆ )လက်မထုသိပ်သည်းလွှာရရှိအောင် ဆောင်ရွက်ရမည့်အလွှာဖြစ်ပါသည်၊ စီ-ဘီ-အာ (ရေစိမ်)တန်ဖိုးသည် (၈၀) ရာခိုင်နှုန်းအထက် ရှိစေရမည်။

( စ ) **လမ်းမျက်နှာပြင်ညှိလွှာ ( Regulating Course )။** လက်ရှိ လမ်းမျက်နှာပြင်အနေအထားအပေါ်မူတည်၍ ( Penetration Macadam ) မခင်းမီ လမ်းမျက်နှာပြင်ညှိလွှာကို သတ်မှတ်စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရမည်။

( ဆ ) **ကနဦးလွှာကတ္တရာလောင်းခြင်း။** ကတ္တရာရေပိတ်လွှာမလောင်းမီ လမ်းမျက်နှာပြင်အားဖုန်များ၊ ရွှံ့များ၊အမှိုက်သရိုက်များ သန့်ရှင်းအောင်ဆောင်ရွက်ရမည်၊ ရေပိတ်လွှာကတ္တရာအား " လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ " ၏သတ်မှတ်ချက်များအတိုင်းဆောင်ရွက်ရမည်။

( ဇ ) **ကတ္တရာဖြင့် ( Penetration Macadam )တည်ဆောက်၍ ကတ္တရာရေပိတ်လွှာနှစ်ထပ်ခင်းခြင်းလုပ်ငန်း။** ကတ္တရာဖြင့် (Penetration Macadam) သိပ်သည်းပြီး (၃ )လက်မအထူကို ကတ္တရာစိမ့်ဝင်မှု(၁.၅)လက်မရှိသော(Semi Grout) ရှိအောင် လမ်းသုတေသနဓါတ်ခွဲခန်းမှ သတ်မှတ်ပေးသည့် စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ပြီးနောက် ကတ္တရာ ရေပိတ်လွှာနှစ်ထပ်ကို စံချိန်စံညွှန်းနှင့်အညီဆက်လက် တည်ဆောက်ရမည်။ **(နောက်ဆက်တွဲ(က)ပါအတိုင်း)**

( ဈ ) **အမာခံလမ်းပုခုံး ( Hard Shoulder ) တည်ဆောက်ခြင်း။** လက်ရှိလမ်း၏ ဘေးတစ်ဖက်တစ်ချက်တွင် အကျယ် ( ၃ )ပေ၊ အထူ ( ၉ )လက်မ (သိပ်သည်းပြီး) ရှိသည့် ဂဝံ (သို့မဟုတ်) ကျောက်ရောမြေဖြင့် တည်ဆောက်ထားသည့် စီ-ဘီ-အာ ၂၅% (သို့မဟုတ်) ၃၀% အင်အားရှိသော လမ်းပုခုံးတည်ဆောက်ရပါမည်။[နောက်ဆက်တွဲ ( က၊ က-၂ မှ က-၁၀) ပါအတိုင်း]

( ည ) ဤလမ်းစီမံကိန်းလုပ်ငန်း၏ လမ်းနယ်နိမိတ်အား ဖြတ်သန်းသည့်နေရာများတွင် ပေ (၂၀၀) အကျယ်သတ်မှတ်သည်။

( ဋ ) ယာဉ်သွားလမ်း (၂)လမ်းအတွက် လမ်းသားအကျယ်ကို ပျမ်းမျှတစ်နေ့ ယာဉ်စီးရေ AADT (Annual Average Daily Traffic) ၂၀၀ အထက်မှ ၅၀၀ အထိရှိပါက (၁၈) ပေ အကျယ်ကတ္တရာလမ်းအဖြစ်လည်းကောင်း၊ ၅၀၀ အထက်မှ ၁၀၀၀ အထိရှိပါက (၂၂) ပေအကျယ်ကတ္တရာလမ်းအဖြစ်လည်းကောင်း၊ ၁၀၀၀ အထက်မှ ၂၅၀၀ အထိရှိပါက (၂၄) ပေအကျယ် ကတ္တရာလမ်းအဖြစ်လည်းကောင်း၊ ၂၅၀၀ အထက်မှ ၅၀၀၀ အထိရှိပါက (၄၈) ပေအကျယ် ကတ္တရာလမ်းအဖြစ်လည်းကောင်း၊ ၅၀၀၀ အထက်ရှိပါက (၇၂) ပေ အကျယ်ကတ္တရာလမ်းအဖြစ်လည်းကောင်း တည်ဆောက်ပေးရမည်။ ပျမ်းမျှတစ်နေ့ ယာဉ်အစီးရေ AADT ( Annual Average Daily Traffic ) (၂၀၀၀)ကျော်သွားသည့်အခါတွင် ကတ္တရာကွန်ကရစ်( Asphalt Concrete )တည်ဆောက်ပေးရမည်၊ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ " မှ လုပ်ငန်းလိုအပ်ချက်အရ တရားဝင် ညွှန်ကြားလာသည့်အခါ " လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ " က ယာဉ်သွားလမ်း (၂၄) ပေအကျယ်ကတ္တရာကွန်ကရစ် (Asphalt Concrete) တည်ဆောက်ပေးရမည်။ ပျမ်းမျှ တစ်နေ့ယာဉ်အစီးရေ (၂၀၀၀) ထက်ပိုမိုကျော်လွန်ပြီး (၂) လမ်းသွားနှင့် မလုံလောက်ပါက (၄) လမ်းသွား ကတ္တရာကွန်ကရစ်လမ်း တည်ဆောက်ပေးရမည်။

